မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုမှ တင်ပြလာသော ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် လုပ်ငန်း ဆောင်ရွက်မည့် Myanmar National Airlines Co., Ltd. ၏ ကော်မရှင် အစည်းအဝေး သို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁-၁-၂၀၁၆ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၃-၁-၂၀၁၆ | ၁၆-၂-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၁-၂၀၁၆ | ၂၅-၁-၂၀၁၆ | |
| ၃။ | PAT (၂/၂၀၁၆) အစည်းအဝေးတင်ပြခြင်း | ၁၁-၁-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီ သို့ ပြန်ကြားသည့် ရက်စွဲ | ၁၉-၁-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပေးပို့ခြင်း | ၁၁-၂-၂၀၁၆ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၈)စုံ ပြန်လည် ပေးပို့ခြင်း/PATအစည်းအဝေးဆုံးဖြတ်ချက် နှင့်အညီပြင်ဆင်တင်ပြလာခြင်း | ၁၇-၂-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၄၈ )ရက်** | | |

MNA INV 3- Days.

| | |
|---|---|
| ကုမ္ပဏီအမည် | - Myanmar National Airlines Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူပို့ဆောင်ရေးလုပ်ငန်း |
| တည်နေရာ | - ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၈၀၄၇၁၄.၇၃ သန်း (US$ ၆၈၁.၈၀၂ သန်း) |
| လုပ်ငန်းသက်တမ်း | - |
| အရင်းကြေကာလ | - (၆)နှစ် နှင့် (၈)လ |
| IRR | - ၁၀.၉၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၃.၁၁ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၀.၄၅ |
| ၅ | ဝင်ငွေခွန် | ၅၁.၂၄ | ၆၅.၂၄ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၈.၄၆ |
| ၇ | လျှပ်စစ် | | ၂၅၆.၃၃ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၁၇၇၃ ဦး |
| | စုစုပေါင်း | ၉၆.၅၁ | ၃၆၁.၆၄ |
| | Cost : Benefit | ၁း၄ | |

**Myanmar National Airlines Co., Ltd.သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် အခြေပြု၍ ပြည်တွင်းပြည်ပ လေကြောင်းသယ်ယူ ပို့ဆောင်ရေးနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar National Airlines Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသန်းထွန်း (အဘ- ဦးလှိုင်ထွန်း) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ပြည်တွင်း ပြည်ပ လေကြောင်း သယ်ယူ ပို့ဆောင်ရေးနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်အားအခြေပြုလျက် ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူပို့ဆောင်ရေးနှင့် ဆက်စပ်သော ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။ |
| ၂။ | တည်ဆောက်ရေးကာလ | - တင်ပြထားခြင်းမရှိပါ။ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - တင်ပြထားခြင်းမရှိပါ။ |
| ၄။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **- ကျပ် ၈၀၄၇၁၄.၇၃ သန်း (US$၆၈၁.၈၀၂သန်းအပါအဝင်)** |
| | - ငွေပမာဏ | - ကျပ် ၂၀၇၅၃.၈၀ သန်း |
| | - အဆောက်အအုံတန်ဖိုး | - ကျပ် ၁၃၂၂၆၆.၇၉ သန်း (US$ ၃၃.၆၇သန်းအပါအဝင်) |
| | - စက်ပစ္စည်းကိရိယာများ | - ကျပ် ၃၅၆၂.၁၄ သန်း |
| | - လေယာဉ်အရန်ပစ္စည်းများတန်ဖိုး | - ကျပ် ၁၂၉၆၅.၀၀ သန်း (US$ ၁၂.၉၆၅ သန်း) |
| | - မြေပြင် လုပ်ငန်းသုံးပစ္စည်း | - ကျပ် ၅၉၃၃.၀၀ သန်း (US$ ၅.၉၃၃ သန်း) |
| | - လေယာဉ်များ | - ကျပ် ၆၂၉၂၃၄.၀၀ သန်း (US$ ၆၂၉.၂၃၄ သန်း) |
| ၅။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | **ပြည်တွင်းခရီးစဉ်**<br>ရန်ကုန်မှ မြန်မာနိုင်ငံတစ်ဝန်းရှိ မြို့ပေါင်း ၂၇ မြို့သို့ ပျံသန်းပြေးဆွဲလျက်ရှိကြောင်း တင်ပြထားပါသည်။<br>**ပြည်ပခရီးစဉ်**<br>ပြည်ပသို့ ပြေးဆွဲမည့် လေယာဉ်ခရီးစဉ် ၁၂ ခုကို ဖော်ပြထားပြီး လက်ရှိတွင် ရန်ကုန်မှ စင်ကာပူ နှင့် ဟောင်ကောင်သို့ ပျံသန်းပြေးဆွဲလျက်ရှိပြီး ပထမနှစ်တွင် တိုင်ပေ၊ ဂျာကာတာ နှင့် ဆိုလ်းမြို့တို့သို့ ပျံသန်းပြေးဆွဲမည်ဖြစ်သည်။ ဒုတိယနှစ်တွင် ပေကျင်းနှင့်ဘူဆန်မြို့များသို့ တိုးချဲ့ပြေးဆွဲမည်ဖြစ်ပြီး တတိယနှစ်တွင် |

| | | |
|---|---|---|
| | | ချန်ဒူး၊ ပီကင်း၊ ဒေလီ မြို့များသို့ ထပ်မံပြေးဆွဲ သွားမည်ဖြစ်ကြောင်း နှင့် ကျန်ရှိသော ခရီးစဉ်များအား အသစ် ထပ်မံရောက်ရှိလာမည့် Boeingများဖြင့် ပျံသန်း ပြေးဆွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၆။ | ဝင်ငွေ | |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | - US$ ၃၅၈.၁၈ သန်း |
| ၇။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၉.၃၂ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၄.၃၅ သန်း |
| ၈။ | အရင်းကြေကာလ | - (၆)နှစ် နှင့် (၈)လ |
| ၉။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၀.၉၈ % |
| ၁၀။ | လုပ်သားအင်အား | - ပြည်တွင်း ၁၇၇၃ ဦး |
| ၁၁။ | လစာပေးချေမှုအစီအစဉ် | - ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။ |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၁% အား သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ် တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ်ဓါတ်အားကို ပုံမှန်ဓါတ်အားလိုင်းမှ ရယူသုံးစွဲမည့် အပြင် 50KVA(Generator)(၁)လုံး၊ 400 KVA (Generator) (၁)လုံးတို့ဖြင့် ဖြည့်တင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း နှင့် နှစ်စဉ် ဒီဇယ်ဆီ ၈၀၀၀ ဂါလံ၊ ဓာတ်ဆီ ၁၂၀၀၀ ဂါလံ၊ စက်ဆီ /ချောဆီ ၆၀၀ဂါလံ၊ လေယာဉ်ဆီ ၈,၀၀၀,၀၀၀ ဂါလံ လိုအပ်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။ |

၁၅။ စိစစ်တင်ပြချက်

(က) ပြည်ပမှ တင်သွင်းမည့် လေယာဉ်များ ငှားရမ်းခြင်းနှင့် တင်သွင်းမည့် အရေအတွက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လေယာဉ်အမျိုးအစား | အရေအတွက် | စုစုပေါင်း တန်ဖိုး(US$)သန်း |
|---|---|---|---|
| ၁ | Boeing (lease) | ၁၀ | ၄၉၄.၀၀၀ |
| ၂ | ATR-72-600 (Lone/Hire purchase | ၆ | ၁၂၉.၆၀၀ |
| ၃ | Grand Caravan(Lone/ Hire purchase) | ၂ | ၅.၆၃၄ |
| | စုစုပေါင်း | ၁၈ | ၆၂၉.၂၃၄ |

(ခ) ငှားရမ်းမည့် လေယာဉ်များမှာ မည်သည့်နိုင်ငံမှ ငှားရမ်းမည်ကို တင်ပြထားခြင်း မရှိပါ။

(ဂ) ယခုအစိုးရသစ် လက်ထက်တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ကော်မရှင်မှ ခွင့်ပြုပေးခဲ့သော ပြည်တွင်း၊ ပြည်ပပြေးဆွဲသော လေကြောင်းလိုင်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | ခွင့်ပြုမိန့်အမှတ်နှင့် ရက်စွဲ |
|---|---|---|---|
| ၁ | အပြည်ပြည်ဆိုင်ရာ မြန်မာ လေကြောင်း ကုမ္ပဏီ လီမိတက် (Myanmar Airways International Co.,Ltd.) | ပြည်တွင်း၊ ပြည်ပ လေကြောင်းသယ်ယူပို့ ဆောင်ရေးလုပ်ငန်း | ၈၄၁/၂၀၁၂ (၅-၄-၂၀၁၂) |
| ၂ | Golden Myanmar Airlines Public Co.,Ltd. | လေကြောင်း သယ်ယူပို့ဆောင်ရေးလုပ်ငန်း ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း | ၈၇၇/၂၀၁၃ (၉-၁-၂၀၁၃) |
| ၃ | Mann Yadanarpon Airlines Co.,Ltd. | ပြည်တွင်း/ ပြည်ပ လေကြောင်း ပျံသန်းရေးဝန်ဆောင်မှု လုပ်ငန်းများ | ၉၅၃/၂၀၁၄ (၂၇.၁.၂၀၁၄) |
| ၄ | Air Myanmar Aviation Services Co.,Ltd. | ပြည်တွင်း/ပြည်ပ အထွေထွေ လေကြောင်း သယ်ယူပို့ ဆောင်ရေးဝန် ဆောင်မှုလုပ်ငန်း | ၉၅၆/၂၀၁၄ (၇-၂-၂၀၁၄) |

| | | | စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား | ခွင့်ပြုမိန့်အမှတ်နှင့် ရက်စွဲ | |
|---|---|---|---|---|---|---|---|
| | | | ၅ | Apex Airline Public Co., Ltd. | ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူပို့ဆောင်ရေး လုပ်ငန်း | ၁၀၀၃/၂၀၁၄ (၃၁-၁၀-၂၀၁၄) | |
| | | | ၆ | FMI Air Ltd | ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူ ပို့ဆောင်ရေး လုပ်ငန်း | ၁၀၀၃/၂၀၁၄ (၃၁-၁၀-၂၀၁၄) | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက- ၄/မ- ၁၅၁၄ /၂၀၁၆( ၂၆၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၁၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Myanmar National Airlines Co., Ltd. သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် အခြေပြု၍ ပြည်တွင်း ပြည်ပ လေကြောင်း သယ်ယူပို့ဆောင်ရေးနှင့် ဆက်စပ်သောဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ Myanmar National Airlines Co., Ltd. သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် အခြေပြု၍ ပြည်တွင်း ပြည်ပ လေကြောင်း သယ်ယူပို့ဆောင်ရေးနှင့် ဆက်စပ်သောဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသန်းထွန်း မှ ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ Myanmar National Airlines Co., Ltd. မှ လုပ်ငန်းအတွက် လိုအပ်သော Boeing ၁၀စီး၊ ATR -72-600 ၆ စီး၊ Grand Caravan လေယာဉ် ၂ စီး စုစုပေါင်း လေယာဉ် ၁၈ စီးကို ဝယ်ယူ/ ငှားရမ်း အသုံးပြုမည် ဖြစ်ပါသည်။

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိရေးအတွက် နိုင်ငံပိုင်စီးပွားရေး လုပ်ငန်းများ ဥပဒေ ပုဒ်မ-၄အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်ကိုကျင့်သုံး၍ ပြည်ထောင်စုအစိုးရအဖွဲ့မှ အမိန့်ကြော်ငြာစာ ၁၈၆/၂၀၁၅ (၂၂-၁၂-၂၀၁၅)ဖြင့် အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် လေကြောင်း ပို့ဆောင်ရေးလုပ်ငန်းကို မြန်မာအမျိုးသားလေကြောင်း ကုမ္ပဏီလီမိတက်အား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုခဲ့သည်။

**နောက်ဆက်တွဲ(က)**

၄။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၆၈၁.၈၀၂သန်း အပါအဝင် စုစုပေါင်း ကျပ် ၈၀၄၇၁၄.၇၃သန်း ဖြစ်ပါသည်။ လေယာဉ်များ၊ လေယာဉ်အရန်ပစ္စည်း၊ မြေပြင် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးဖြစ်သည့် အမေရိကန်ဒေါ်လာ ၆၂၉.၂၃၄ သန်းဖိုးကို ပြည်ပမှ ဝယ်ယူ /ငှားရမ်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ငွေပမာဏ ကျပ် ၂၀၇၅၃.၈၀ သန်း

(ခ) အဆောက်အဦတန်ဖိုး ကျပ် ၁၃၂၂၆၆.၇၉ သန်း (US$ ၃၃.၆၇ သန်းအပါအဝင် )

(ဂ) စက်ပစ္စည်းကိရိယာများ ကျပ် ၁၅၆၂.၁၄ သန်း

(ဃ) လေယာဉ်အရန်ပစ္စည်းများ တန်ဖိုး ကျပ် ၁၂၉၆၅.၀၀ သန်း (US$ ၁၂.၉၆၅သန်း)

(င) မြေပြင် လုပ်ငန်းသုံးပစ္စည်း ကျပ် ၅၉၃၃.၀၀ သန်း (US$ ၅.၉၃၃ သန်း)

(စ) လေယာဉ်များ ကျပ် ၆၂၉၂၃၄.၀၀ သန်း (US$ ၆၂၉.၂၃၄ သန်း)

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၈၀၄၇၁၄.၇၃ သန်း (US$ ၆၈၁.၈၀၂ သန်းအပါအဝင်)**

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ၁၇၇၃ ဦး ခန့်ထား မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာ မှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် လေကြောင်းပျံသန်းပြေးဆွဲခြင်း ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**ပြည်တွင်းခရီးစဉ်**

ရန်ကုန်မှမြန်မာနိုင်ငံတစ်ဝန်းရှိ မြို့ပေါင်း ၂၇ မြို့သို့ ပျံသန်းပြေးဆွဲလျက် ရှိကြောင်း တင်ပြထားပါသည်။

**ပြည်ပခရီးစဉ်**

ပြည်ပသို့ ပြေးဆွဲမည့် လေယာဉ်ခရီးစဉ် ၁၂ ခုကို ဖော်ပြထားပြီး လက်ရှိတွင် ရန်ကုန် မှ စင်ကာပူ နှင့် ဟောင်ကောင်သို့ ပျံသန်း ပြေးဆွဲလျက်ရှိပြီး ပထမနှစ်တွင် တိုင်ပေ၊ ဂျာကာတာ နှင့် ဆိုလ်းမြို့တို့သို့ ပျံသန်းပြေးဆွဲမည်ဖြစ်သည်။ ဒုတိယနှစ်တွင် ပေကျင်း နှင့် ဘူဆန်မြို့များသို့ တိုးချဲ့ပြေးဆွဲမည်ဖြစ်ပြီး တတိယနှစ်တွင် ချန်ဒူး၊ ပီကင်း၊ ဒေလီမြို့များသို့ ထပ်မံပြေးဆွဲသွားမည်ဖြစ်ကြောင်း နှင့် ကျန်ရှိသော ခရီးစဉ်များအား အသစ်ထပ်မံ ရောက်ရှိလာမည့် Boeingများဖြင့် ပျံသန်း ပြေးဆွဲသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၅၈.၁၈ |
| (ခ) | အသုံးစရိတ် | ၃၃၀.၂၃ |
| (ဂ) | အသားတင်အမြတ် | ၂၇.၉၅ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် US$ ၄.၃၅ သန်း နှင့် ဝင်ငွေခွန် US$ ၉.၃၂ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏

အရင်းကြေကာလမှာ (၆)နှစ် နှင့် (၈)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၉၈ % ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့(နောက်ဆက်တွဲ-ခ)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကိုထိခိုက်ခြင်းမရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းပြည်ပလေကြောင်း တိုးချဲ့ပျံသန်းခြင်း၊ လေကြောင်းပို့ဆောင်ရေး ဆက်စပ်သည့်လုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်ခြင်းများနှင့်အညီ အလုပ်အကိုင် အခွင့်အလမ်းများ တိုးမြှင့်ရရှိလာမည်ဖြစ်ပါကြောင်းနှင့် လက်ရှိဖွဲ့စည်းပုံအရ ခွင့်ပြုအင်အား(၂၄၀၂)ဦးအနက် (၁၃၅၅)ဦး ခန့်ထားပြီးဖြစ်သည့်အတွက် လုပ်ငန်းလိုအပ်ချက်နှင့်အညီ(၁၀၄၇)ဦးအား ထပ်မံခန့်ထားနိုင်မည်ဖြစ်သောကြောင့် အလုပ်အကိုင်ရရှိမည်ဖြစ်သော ကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် နိုင်ငံပိုင်လေကြောင်းလိုင်းဖြစ်သည့်အတွက် ဌာနပိုင် (နိုင်ငံတော်ပိုင်) မြေ၊ အဆောက်အဦတွင် လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် လေကြောင်းပျံသန်းအသုံးပြုသည့် လေယာဉ်နှင့် စက်ယန္တရားများသည် ပတ်ဝန်းကျင် အနည်းဆုံး ထိခိုက်မှုစံရှိသည့်အတွက် နိုင်ငံတကာတွင် အသုံးပြုနေပါကြောင်း၊ အသုံးပြုသည့် လေယာဉ်ဆီ၊ စက်ဆီများသည်လည်း ပစ္စည်းစွန့်ပစ်ခြင်း မပြုဘဲ အခြားနေရာတွင် ပြန်လည်အသုံးပြုနိုင်သည့်အတွက် စနစ်တကျ သိမ်းဆည်းထားပါသဖြင့် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏

(၁%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်။

(၃) လုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်း အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုနှင့် စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Initial Environmental Examination- IEE)အစီရင်ခံစာကို ရေးဆွဲတင်ပြရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ ညွှန်ကြားချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း(၁၁-၂-၂၀၁၆) ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။ )**

၁၀။ ကျပ်ငွေအထောက်အထားအဖြစ် Myanmar National Airlines အမည်ဖြင့် မြန်မာ့စီးပွား ရေးဘဏ်၌ ၃၀-၁၁-၂၀၁၅ ရက်စွဲရှိ ငွေလက်ကျန် ကျပ် ၁၇၅၈၀၁၃၁၆၅၈.၆၃ သန်းရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ်၌ အမေရိကန်ဒေါ်လာ ၉၇၁၅၅၁၀.၂၆ နှင့် ယူရို ၂၁၀၄၃.၉၀ ရှိကြောင်း တင်ပြ ထားပါသည်။ Myanmar National Airlines အမည်ဖြင့် (၃၀-၁၁-၂၀၁၅) နေ့စွဲဖြင့် မြန်မာ့နိုင်ငံ ခြား ကုန်သွယ်မှုဘဏ်၌ အမေရိကန် ဒေါ်လာ ၈၀၁၅၃၃.၇၃ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်း အသစ်ဖြစ်ကြောင်း၊ နှစ်စဉ်အသားတင်အမြတ်၏ ၁% သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို ပုံမှန်ဓါတ်အားလိုင်းမှရယူသုံးစွဲမည့်အပြင် 50 KVA (Generator)(၁)လုံး၊ 400 KVA(Generator)(၁)လုံးတို့ဖြင့် ဖြည့်တင်းဆောင်ရွက်သွား မည်ဖြစ်ကြောင်းနှင့် နှစ်စဉ်ဒီဇယ်ဆီ ၄၈၀၀၀ ဂါလံ၊ ဓာတ်ဆီ ၁၂၀၀၀ ဂါလံ၊ စက်ဆီ/ချောဆီ ၆၀၀ ဂါလံ၊ လေယာဉ်ဆီ ၈,၀၀၀,၀၀၀ ဂါလံ လိုအပ်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ (က၊ဂ။စ၊ဆ၊ဇ၊ဈ၊ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထား လာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ပြည်ပမှ တင်သွင်းမည့် လေယာဉ်များ ငှားရမ်းခြင်းနှင့် တင်သွင်းမည့် အရေအတွက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | လေယာဉ်အမျိုးအစား | အရေအတွက် | စုစုပေါင်းတန်ဖိုး (US$)သန်း |
|---|---|---|---|
| ၁ | Boeing (lease) | ၁၀ | ၄၉၄.၀၀ |
| ၂ | ATR-72-600(Loan/Hire purchase | ၆ | ၁၂၉.၆၀၀ |
| ၃ | Grand Caravan(Loan/ Hire purchase) | ၂ | ၅.၆၃၄ |
| | စုစုပေါင်း | ၁၈ | ၆၂၉.၂၃၄ |

(ခ) ငှားရမ်းမည့် လေယာဉ်များမှာ မည်သည့်နိုင်ငံမှ ငှားရမ်းမည်ကို တင်ပြထားခြင်း မရှိပါ။

(ဂ) ယခုအစိုးရသစ် လက်ထက်တွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ကော်မရှင်မှ ခွင့်ပြုပေးခဲ့သော ပြည်တွင်း၊ ပြည်ပပြေးဆွဲသော လေကြောင်းလိုင်းများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုး အစား | ခွင့်ပြုမိန့်အမှတ် နှင့် ရက်စွဲ |
|---|---|---|---|
| ၁ | အပြည်ပြည်ဆိုင် ရာ မြန်မာ လေကြောင်း ကုမ္ပဏီ လီမိတက် (Myanmar Airways International Co.,Ltd.) | ပြည်တွင်း၊ ပြည်ပ လေကြောင်း သယ်ယူ ပို့ဆောင်ရေး လုပ်ငန်း | ၈၄၁/၂၀၁၂ (၅-၄-၂၀၁၂) |
| ၂ | Golden Myanmar Airlines Public Co.,Ltd. | လေကြောင်း သယ်ယူ ပို့ဆောင်ရေး လုပ်ငန်းဆိုင်ရာ ဝန်ဆောင် မှု လုပ်ငန်း | ၈၇၇/၂၀၁၃ (၉-၁-၂၀၁၃) |
| ၃ | Mann Yadanarpon Airlines Co.,Ltd. | ပြည်တွင်း/ ပြည်ပ လေကြောင်း ဖျံသန်း ရေးဝန်ဆောင်မှုလုပ်ငန်းများ | ၉၅၃/၂၀၁၄ (၂၇.၁.၂၀၁၄) |
| ၄ | Air Myanmar Aviation Services Co.,Ltd. | ပြည်တွင်း/ ပြည်ပ အထွေထွေ လေကြောင်း သယ်ယူ ပို့ဆောင် ရေး ဝန်ဆောင်မှု လုပ်ငန်း | ၉၅၆/၂၀၁၄ (၇-၂-၂၀၁၄) |
| ၅ | Apex Airline Public Co., Ltd. | ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း | ၁၀၀၃/၂၀၁၄ (၃၁-၁၀-၂၀၁၄) |
| ၆ | FMI Air Ltd | ပြည်တွင်း ပြည်ပလေကြောင်း သယ်ယူ ပို့ဆောင်ရေးလုပ်ငန်း | ၁၀၀၃/၂၀၁၄ (၃၁-၁၀-၂၀၁၄) |

**ဆုံးဖြတ်ရန်အချက်**

၁၆။ Myanmar National Airlines Co., Ltd.သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာ လေဆိပ်တွင် အခြေပြု၍ ပြည်တွင်း ပြည်ပ လေကြောင်း သယ်ယူပို့ဆောင်ရေးနှင့် ဆက်စပ်သောဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ အပေါ် ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

**နောက်ဆက်တွဲ(က)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

အမိန့်ကြော်ငြာစာအမှတ် ၁၈၆ /၂၀၁၅

၁၃၇၇ ခုနှစ်၊ နတ်တော်လဆန်း ၁၁ ရက်

( ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက် )

၁။ ပြည်ထောင်စုအစိုးရအဖွဲ့သည် နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများဥပဒေ ပုဒ်မ ၄ အရ အပ်နှင်းထားသည့်လုပ်ပိုင်ခွင့်ကိုကျင့်သုံး၍ ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

၂။ နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများဥပဒေ ပုဒ်မ ၃ ၊ ပုဒ်မခွဲ(ဆ)အရ အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် လေကြောင်းပို့ဆောင်ရေးလုပ်ငန်းကို မြန်မာအမျိုးသား လေကြောင်းကုမ္ပဏီလီမိတက် (Myanmar National Airlines Company Limited-MNA) အား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုလိုက်သည်။

၃။ အပိုဒ်(၂)အရ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုသောလုပ်ငန်းကို ကြီးကြပ်ကွပ်ကဲရန် ပို့ဆောင်ရေးဝန်ကြီးဌာနအား လုပ်ပိုင်ခွင့် အပ်နှင်းလိုက်သည်။

အမိန့်အရ

ဇော်သန်းသင်း

အတွင်းရေးမှူး

ပြည်ထောင်စုအစိုးရအဖွဲ့

စာအမှတ်၊ ၂၄၇၁ /၂၅၃ - အဖရ(MNA)/ (၂၅/၂၀၁၅)။

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက်။

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

တိုင်းဒေသကြီးအစိုးရအဖွဲ့ ရန်ကုန်တိုင်းဒေသကြီး
စာအမှတ် ၆၀၃
ရက်စွဲ ၈/၂/၁၆

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

1613-306
16/2

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃. ၁. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၁၄/ ၂၀၁၆(၀၃၉)

၁။ Myanmar National Airlines Co., Ltd. သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်တွင် အခြေပြု၍ ပြည်တွင်းပြည်ပလေကြောင်း သယ်ယူပို့ဆောင်ရေးလုပ်ငန်း၊ လေကြောင်းပို့ဆောင်ရေးနှင့် ဆက်စပ်စီးပွားရေး လုပ်ငန်းများအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းပြည်ပလေကြောင်း တိုးချဲ့ပျံသန်းခြင်း၊ လေကြောင်း ပို့ဆောင်ရေး ဆက်စပ်သည့်လုပ်ငန်းများကို တိုးချဲ့ဆောင်ရွက်ခြင်းများနှင့်အညီ အလုပ်အကိုင် အခွင့်အလမ်းများ တိုးမြှင့်ရရှိလာမည်ဖြစ်ပါသည်။ လက်ရှိဖွဲ့စည်းပုံအရ ခွင့်ပြုအင်အား (၂၄၀၂)ဦးအနက် (၁၃၅၅)ဦးခန့်ထားပြီးဖြစ်သည့်အတွက် လုပ်ငန်းလိုအပ်ချက်နှင့်အညီ (၁၀၄၇)ဦးအား ထပ်မံခန့်ထားနိုင်မည်ဖြစ်သောကြောင့် အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် နိုင်ငံပိုင်လေကြောင်းလိုင်းဖြစ်သည့်အတွက် ဌာနပိုင်(နိုင်ငံတော်ပိုင်) မြေ၊ အဆောက်အဦတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် လေကြောင်း ပျံသန်းအသုံးပြုသည့် လေယာဉ်နှင့် စက်ယန္တရားများသည် ပတ်ဝန်းကျင်အနည်းဆုံး ထိခိုက်မှု စံရှိသည့်အတွက် နိုင်ငံတကာတွင်အသုံးပြုနေပါကြောင်း၊ အသုံးပြုသည့် လေယာဉ်ဆီ၊ စက်ဆီများသည်လည်း ပစ္စည်းစွန့်ပစ်ခြင်းမပြုဘဲ အခြားနေရာတွင် ပြန်လည်အသုံးပြုနိုင်သည့် အတွက် စနစ်တကျသိမ်းဆည်းထားပါသဖြင့် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိပါကြောင်း တင်ပြထားပါသည်။

D/2016/Cabinet/5.,(11)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၄. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၄)အရ Myanmar National Airlines Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလမ်းပန်းဆက်သွယ်ရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar National Airlines Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

DDG 109
26/1/16

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁( ၂၄၁၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၅ ရက်

Mz- 169
25/1

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Myanmar National Airlines Co.,Ltd သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်တွင်အခြေပြု၍ ပြည်တွင်းပြည်ပလေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်း၊ လေကြောင်းပို့ဆောင်ရေးနှင့်စီးပွားရေးလုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၁၄ / ၂၀၁၆(၀၂၄)

၁။ Myanmar National Airlines Co.,Ltd သည် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်တွင် အခြေပြု၍ ပြည်တွင်းပြည်ပလေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်း၊ လေကြောင်းပို့ဆောင်ရေးနှင့်ဆက်စပ်စီးပွားရေးလုပ်ငန်းများအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ်(၅၀)နှင့်(၁)နှစ်ခြင်းအလိုက် သက်တမ်းတိုးဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ၏(၁%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility–CSR )လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ

လိုက်နာကျင့်သုံးဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Myanmar National Airlines Co.,Ltdမှ လုပ်ငန်းများဆောင်ရွက်လုပ်ကိုင်ခြင်းနှင့် ပတ်သက်၍ လေယာဉ်များမှထွက်ရှိလာမည့် မီးခိုးများကြောင့်လေထုညစ်ညမ်းခြင်း၊ လေယာဉ် ပြုပြင်ထိန်းသိမ်းဆောင်ရွက်ရာတွင်ထွက်ရှိလာမည့် စွန့်ပစ်ဆီ၊ ချောဆီနှင့် အခြားသော အညစ်အကြေးများ၊ အမှိုက်များကြောင့် ပတ်ဝန်းကျင်မြေထုညစ်ညမ်းခြင်း၊ လေယာဉ်ဆီများသည် ကာဗွန်နှင့်ဟိုက်ဒရိုဂျင်ဓာတ်ငွေ့များဖြင့် ဖွဲ့စည်းထားပြီးလေထုအတွင်းရှိ အောက်ဆီဂျင်ဓာတ်ငွေ့နှင့်ထိတွေ့ပါက ကာဗွန်ဒိုင်အောက်ဆိုဒ်နှင့်ကာဗွန်မိုနော့ဆိုဒ်ဓာတ်ငွေ့များထွက်ရှိခြင်းတို့ကြောင့် လေထုညစ်ညမ်းခြင်း၊ အဆုတ်နှင့်အသက်ရှုလမ်းကြောင့်ထိခိုက်နိုင်ခြင်းတို့ကိုဖြစ်ပေါ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar National Airlines Co.,Ltdမှ ပြည်တွင်းပြည်ပလေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်း၊ လေကြောင်းပို့ဆောင်ရေးနှင့်ဆက်စပ်စီးပွားရေးလုပ်ငန်းများအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်း သဘောထားမှတ်ချက်အားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏ (၁%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကိုအသုံးပြုရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကိုမထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုနှင့်စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Manangement Plan-EMP )အားရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက (Initial Environmental Examination-IEE ) အစီရင်ခံစာကိုရေးဆွဲတင်ပြရန်။

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar

www.flymna.com

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# မြန်မာအမျိုးသားလေကြောင်းမှအဆိုပြုလွှာတင်ပြခြင်း

myanmar national airlines

Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar

www.flymna.com

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# မြန်မာအမျိုးသားလေကြောင်းမှအဆိုပြုလွှာတင်ပြခြင်း

myanmar
national airlines

Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar

www.flymna.com

စာအမှတ်၊အဖွဲ့ရုံး/ထွေ /၁၀၁ /၂၀၁၆

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ၂၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း

၁။ မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်သည် စီးပွားရေးလုပ်ငန်းများကို ဈေးကွက်စီးပွားရေး စနစ်နှင့် အညီ စီးပွားရေးဆန်ဆန် လွပ်လပ်စွာ ဆောင်ရွက်နိုင်ရန်အတွက် မြန်မာအမျိုးသားလေကြောင်းဥပဒေကို ၂၀၁၄ခုနှစ်၊ပြည်ထောင်စုလွှတ်တော် ဥပဒေအမှတ် (၅၂)ဖြင့် ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ( ၅ )ရက်နေ့တွင် နိုင်ငံတော်သမ္မတက လက်မှတ်ရေးထိုး အတည်ပြု ပြဋ္ဌာန်းခဲ့ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှလည်း(၁ ဂျေဗီ /၂၀၁၅-၂၀၁၆) ဖြင့် (၈-၅-၂၀၁၅)ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်ခွင့် ရရှိခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ပါမစ် ထုတ်ပေးနိုင်ပါရန် အတွက် အဆိုပြုလွှာ (၁၂)စုံ အား ပေးပို့တင်ပြ လျှောက်ထားအပ်ပါသည်။

သန်းထွန်း

အမှုဆောင်အရာရှိချုပ်

myanmar
national airlines


Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar
www.flymna.com


စာအမှတ်၊အဖွဲ့ရုံး/ထွေ / ၁၀၂ / ၂၀၁၆

ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့်၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း

၁။ မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်(Myanmar National Airlines Co Ltd ) သည်မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက် တည်ထောင်ပြီး လုပ်ငန်း ဆောင်ရွက်ခွင့်ပြု ပါရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်မှရင်းနှီးမြှုပ်နှံငွေ (ကျပ်၁၀၀၀ဘီလီယံ) တိတိထည့်ဝင် ရင်းနှီးမည်ဖြစ်ပါသည်။

၂။ ပို့ဆောင်ရေးဝန်ကြီးဌာန ၏ လမ်းညွှန်မှုဖြင့် နိုင်ငံပိုင် လေကြောင်းလိုင်း ဖြစ်သော မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်(Myanmar National Airlines Co Ltd ) သည် နိုင်ငံတော်၏ အုပ်ချုပ်ရေး၊ကာကွယ်ရေးနှင့် အရေးပေါ် ကိစ္စရပ်များတွင် ငွေကြေးအကျိုးအမြတ် မယူသော နိုင်ငံတော်အလံတင်လေကြောင်းလိုင်းဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ မြန်မာနိုင်ငံသားများ အလုပ်အကိုင်သစ်များ နှင့် နည်းပညာများ ပေါ်ပေါက် ရရှိစေရန် အတွက်လည်းကောင်း၊မြန်မာနိုင်ငံ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရန်အတွက်လည်းကောင်း၊သင့်လျော်သည့်အခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ရရှိစေရန်အတွက်လည်းကောင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့် တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၄။ ဤလျှောက်လွှာနှင့် အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲတင်ပြ အပ်ပါ သည်-

(က) ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုလုပ်သူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်။

(ခ) ဘဏ္ဍာအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

(ဂ) လုပ်ငန်းပိုင်နှင့်ငွေရေးကြေးရေး။

(ဃ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းစာအုပ်။

သန်းထွန်း

သန်းထွန်း

အမှုဆောင်အရာရှိချုပ်

myanmar
national airlines

Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar

www.flymna.com

စာအမှတ်၊အဖွဲ့ရုံး/ထွေ / ၁၀၃ / ၂၀၁၆

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ၂၄ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်တည်ထောင်ပြီးလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း

၁။ မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်(Myanmar National Airlines Co Ltd ) သည် မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက် တည်ထောင်ပြီး လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ လျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့် ရရှိနိုင်ရေးအတွက် အောက်ပါတို့ကိုဝန်ခံကတိပြုပါသည်-

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်းသည်လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ထို့အပြင် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက်လိုအပ်သောအစီအမံများ၊ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၏ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဟုဝန်ခံ ကတိ ပြုပါသည်။

(ဃ) မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိ ပြုပါသည်။

(င) မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်( Myanmar National Airlines Co Ltd )မှ ရရှိလာသောနိုင်ငံခြားငွေများကို မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှု နှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိငွေစာရင်း သို့ မပျက်မကွက်ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုပါသည်။

သန်းထွန်း

သန်းထွန်း

အမှုဆောင်အရာရှိချုပ်

# မြန်မာအမျိုးသားလေကြောင်း ၏ လုပ်ငန်းဆောင်ရွက်မည့်အစီအစဥ်များ

မြန်မာအမျိုးသားလေကြောင်း၏ဆောင်ရွက်မည့်အစီအစဥ်များမှာအောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်-

(က) ပြည်တွင်း၊ ပြည်ပလေကြောင်းခရီးစဥ်နှင့် စင်းလုံးငှားခရီးစဉ်များ ပြေးဆွဲခြင်းနှင့် စပ်လျဥ်း၍ -

(၁) ခရီးစဥ်ပျံသန်း ပြေးဆွဲရန် အတွက် လိုအပ်သည့် လေယာဥ် အမျိုးအစားကို ဝယ်ယူခြင်း၊ ငှားရမ်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း။

(၂) လိုအပ်သော အရောင်းကိုယ်စားလှယ်များ (General Sale Agent/ Private Sale Agent) များကို သက်ဆိုင်ရာ ပြည်တွင်း / ပြည်ပ မြို့များတွင် ခန့်ထား ဆောင်ရွက်ခြင်း။

(၃) ပြေးဆွဲမည့် ခရီးစဥ်အသစ် ရွေးချယ်ခြင်း။

(၄) ခရီးစဥ်များ ပြောင်းလဲခြင်း၊ ဖျက်သိမ်းခြင်း၊ အစားထိုးခြင်းတို့ကိုလည်း ခရီးသည် ရရှိမှုအခြေအနေ ၊ လေယာဥ်ထွက်ရှိမှုအခြေအနေ ၊ လေကြောင်းလိုင်း၏ လိုအပ်ချက်အခြေအနေ နှင့် ဝန်ကြီးဌာန၏ ညွှန်ကြားချက်တို့ နှင့် အညီ ဆောင်ရွက်ခြင်း။

(၅) စင်းလုံးငှား (ခရီးသည်/ကုန်စည်) ခရီးစဥ်များကို လေကြောင်းလိုင်းရှိ အသုံး ပြုနိုင်သော လေယာဥ်ပေါ် မူတည်၍ စီမံခန့်ခွဲရေးအဖွဲ့မှ အတည်ပြု ထားသည့် နှုန်းထားများနှင့် ဆောင်ရွက်ခြင်း။

(၆) အရေးပေါ် စင်းလုံးငှားခရီးစဥ်များ ရှိလာပါက အချိန်နှင့် တပြေးညီ ဆောင်ရွက် ပေးခြင်း။

(၇) စင်းလုံးငှားခရီးစဥ်ကို လေကြောင်းလိုင်း၏ စီးပွားရေး လိုအပ်ချက်အရ ဆောင်ရွက်ပေးခြင်း။

(ခ ) ပြည်တွင်း ၊ ပြည်ပ လေယာဥ်မြေပြင်ဝန်ဆောင်မှုလုပ်ငန်း ၊ အခြားသော ဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုးတို့ကိုဆောင်ရွက်ခြင်း ၊ အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းတို့ နှင့် စပ်လျဥ်း၍ -

(၁) ပြည်တွင်း/ပြည်ပလေကြောင်းလိုင်းများအားအပြည်ပြည်ဆိုင်ရာလေကြောင်း သယ်ယူပို့ဆောင်ရေးအဖွဲ့ (International Air Transport Association - IATA) ၏စံသတ်မှတ်ချက်နှင့်အညီစာချုပ်ချုပ်ဆို၍ မြေပြင်ဝန်ဆောင်မှုလုပ်ငန်း များ ဆောင်ရွက်ခြင်း။

(၂) မြေပြင်ဝန်ဆောင်မှုလုပ်ငန်းများအား အခြားအဖွဲ့အစည်းများနှင့် အကျိုးတူ ပူးပေါင်း၍ ဆောင်ရွက် ခြင်း။

(၃) ပြည်တွင်းလေဆိပ်များတွင်ဆင်းသက်လာသည့် အခြားလေကြောင်းလိုင်းများ အတွက် မြေပြင်ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ခြင်း။

(၄) ပြည်ပမှ ဆင်းသက်လာသည့် ပုံမှန်ခရီးစဉ်မဟုတ်သော (Non Schedule Flights) လေယာဉ်များ၏ မြေပြင်ဝန်ဆောင်မှုလုပ်ငန်းများကို ဝန်ဆောင်မှု ဆောင်ရွက် ပေးခြင်း။

(၅) လေကြောင်းကုန်စည်ပို့ဆောင်ရေးလုပ်ငန်းများအား ဆောင်ရွက်ခြင်း။

(၆) ပြည်တွင်း/ ပြည်ပလေဆိပ်များတွင် မြေပြင်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက် ပေးခြင်း။

(ဂ ) လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများ ဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူး ရောင်းချ ခြင်းနှင့် စပ်လျဉ်း၍ -

(၁) ပြည်တွင်းလေဆိပ်များတွင် လေယာဉ်ဆီ ၊ စက်ဆီ ၊ ချောဆီများဝယ်ယူခြင်း ၊ သိုလှောင်ခြင်း ၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းများကို ဆောင်ရွက်ခြင်း။

(၂) ဖော်ပြပါလုပ်ငန်းများကို မိမိကိုယ်တိုင်သော်လည်းကောင်း ၊ နိုင်ငံသား / နိုင်ငံခြားသားတို့ နှင့် အကျိုးတူပူးပေါင်း၍သော်လည်းကောင်း ၊ ဖက်စပ်ကုမ္ပဏီ အဖြစ်သော်လည်းကောင်း ဆောင်ရွက်ခြင်း။

(ဃ) လေယာဉ်တင် အစားအစာလုပ်ငန်းဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ လေကြောင်းလိုင်းပိုင် လေယာဉ်တင်စားသောက်မှုစီစဉ်ရေးလုပ်ငန်း (In Flight Catering Services) အပြင် အခြားသော (ဆေးရုံ ၊ ရထား ၊ ဟိုတယ် ၊ မုန့်တိုက်...) စသည့် အဖွဲ့အစည်းများသို့ ဖြန့်ဖြူးနိုင်သည်အထိ ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း။

(င ) အခြား ပြည်တွင်း ၊ ပြည်ပလေကြောင်းလိုင်းများ၏ လက်မှတ်အရောင်း ကိုယ်စားလှယ် လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ လိုအပ်သော အရောင်းကိုယ်စားလှယ် (General Sale Agent/ Passenger Sale Agent) များကို သက်ဆိုင်သော ပြည်တွင်း ပြည်ပ မြို့များတွင် ခန့်ထား ၍ဆောင်ရွက်ခြင်း။

(စ ) ပြည်တွင်း၊ ပြည်ပလေကြောင်းလိုင်းများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းနှင့် ပြည်တွင်း၊ ပြည်ပရင်းနှီးမြှုပ်နှံသူတို့နှင့် သီးခြားလုပ်ငန်းသဘောတူစာချုပ် ချုပ်ဆို၍ ဖက်စပ်ကုမ္ပဏီထူထောင် ဆောင်ရွက်ခြင်း တို့နှင့် စပ်လျဉ်း၍ -

(၁) ပြည်တွင်း၊ပြည်ပလေကြောင်းလိုင်းများနှင့် အကျိုးတူ ပူးပေါင်း လုပ်ငန်းများ ဖြစ်သော (Code Share Agreement/ Interline Agreement) စာချုပ်များဖြင့် ဆောင်ရွက်ခြင်း။

(၂) ပြည်တွင်း ပြည်ပ ရင်းနှီးမြှုပ်နှံလိုသူများနှင့် သီးခြားလုပ်ငန်းသဘောတူ စာချုပ်ချုပ်ဆို၍ ဖက်စပ်ကုမ္ပဏီထူထောင်ခြင်း။

(ဆ) ပြည်တွင်း၊ ပြည်ပမှ လေယာဉ် နှင့် လေယာဉ်၏ ဆက်စပ်ပစ္စည်းများ ငှားရမ်း လုပ်ကိုင်ခြင်း နှင့် စပ်လျဉ်း၍ -

(၁) လေယာဉ်နှင့် လေယာဉ်၏ ဆက်စပ်ပစ္စည်းများအား ငှားရမ်းအသုံးပြုခြင်း။

(၂) မိမိပိုင် လေယာဉ် နှင့် လေယာဉ်၏ ဆက်စပ်ပစ္စည်းများအား ငှားရမ်း ဆောင်ရွက်ခြင်း။

(ဇ ) မြန်မာအမျိုးသားလေကြောင်းပိုင်မြေအဆောက်အအုံနှင့် အခြားပိုင်ဆိုင်ခွင့်များအား ဝန်ကြီးဌာန၏ သဘောတူညီချက်ဖြင့် အနည်းဆုံး ကနဦး (၅) နှစ်၊ နောက် (၁) နှစ် (၅) ကြိမ် သက်တမ်း တိုးငှားရမ်းပေးခြင်း။

(ဈ ) ပြည်တွင်း ၊ ပြည်ပလေကြောင်းလိုင်းများ၏ လေယာဉ်များ အကြီးစား နှင့် အသေးစား ပြုပြင်ထိန်းသိမ်းခြင်းနှင့် စပ်လျဉ်း၍ -

(၁) လေယာဉ်ပြုပြင်ထိန်းသိမ်းရေး(MRO) လုပ်ငန်းတွင် အောက်ပါလုပ်ငန်းများ ပါဝင်ပြီး မိမိ၏ စွမ်းဆောင်နိုင်ရည် (Capability) အရ အကျိုးဝင်သောလုပ်ငန်းများ လုပ်ဆောင်ခြင်း-

(ကက) လေယာဉ်ရပ်နားသည့်နေရာတွင်ပြုပြင်ခြင်း (Line Maintenance)

( ခခ ) လေယာဉ်ရုံတွင်ပြုပြင်ခြင်း (Base Maintenance)

( ဂဂ ) အကြီးစားပြုပြင်ခြင်းနှင့် အသေးစားပြုပြင်ခြင်း (Major / Minor - Repair)

(ဃဃ) လေယာဉ်အစိတ်အပိုင်းများလဲလှယ်ခြင်း၊ အစားထိုးတပ်ဆင်ခြင်း (Component Change and Replacement)

( ငင ) အကွဲအအက်စစ်ဆေးခြင်း (Non Destructive Test)

( စစ ) အထွေထွေအကြီးစားပြုပြင်ခြင်း (Overhaul)

(ဆဆ ) အဆင့်မြှင့်တင်ခြင်း (Modification)

( ဇဇ ) ကျွမ်းကျင်မှုဆိုင်ရာ သင်တန်းပေးခြင်း

( ဈဈ ) ကျွမ်းကျင်သူပို့လွှတ်ငှားရမ်းခြင်း

(၂) မိမိ၏ လေယာဉ်ပြုပြင်ထိန်းသိမ်းရေး (MRO) လုပ်ငန်း/ဌာန ထံ လုပ်ငန်း အပ်နှံရေးအတွက် ပြည်တွင်း/ပြည်ပလေကြောင်းလိုင်းများသို့ ဆက်သွယ်၍ ဈေးကွက်ရှာဖွေခြင်း ၊ မိမိ လေယာဉ်ပြုပြင်ထိန်းသိမ်းရေး (MRO) လုပ်ငန်း/ ဌာန အား လေကြောင်းလိုင်းများ မှ လာရောက်စစ်ဆေး၍ အတည်ပြုချက် (Approval) ရယူခြင်းများကို ဆောင်ရွက်ခြင်း။

( ည) လေယာဉ်မှူး ၊ လေယာဉ်သား ၊ စက်မှုအင်ဂျင်နီယာ ၊ စက်ပြင် နှင့် ကျွမ်းကျင်ဝန်ထမ်း များစုဆောင်းခြင်း ၊ ငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍-

(၁) ဖော်ပြပါလူသားအရင်းအမြစ်များကို ပြည်တွင်း/ပြည်ပမှစုဆောင်းခြင်း ။

(၂) ပြင်ပအဖွဲ့အစည်းများမှလိုအပ်သော မိမိလေကြောင်းလိုင်းရှိ လူသားအရင်း အမြစ်များကို အချိန်ပြည့်/အချိန်ပိုင်း ငှားရမ်းခြင်း။

(ဋ ) လေကြောင်းဆိုင်ရာသင်တန်းကျောင်းများ ဖွင့်လှစ်၍ နိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား လေယာဉ်မှူး ၊ လေယာဉ်သား ၊ စက်မှုအင်ဂျင်နီယာ ၊ စက်ပြင် နှင့် ကျွမ်းကျင်ဝန်ထမ်း များ လေ့ကျင့် မွေးထုတ်ပေးသည့် လုပ်ငန်းများ ဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ -

(၁) လေကြောင်းဆိုင်ရာသင်တန်းကျောင်းများကို မိမိကိုယ်တိုင်သော်လည်းကောင်း ၊ နိုင်ငံသား/နိုင်ငံခြားသားတို့နှင့် အကျိုးတူပူးပေါင်း၍သော်လည်းကောင်း ဖွင့်လှစ် ဆောင်ရွက်ခြင်း။

(၂) သင်တန်းကျောင်းသည် နိုင်ငံတကာမြို့ပြလေကြောင်း အဖွဲ့အစည်းများ၏ စံသတ်မှတ်ချက်များ နှင့်အညီ နိုင်ငံတကာအသိအမှတ်ပြုသည့် လိုင်စင်များ ထုတ်ပေးခြင်း။

(၃) သင်တန်းကျောင်း နှင့်သက်ဆိုင်သော ကုန်ကျစရိတ် ၊ သင်တန်းအလိုက် ကျသင့် သော ကုန်ကျစရိတ်များကို သက်ဆိုင်ရာ သင်တန်းသားများထံမှ ကောက်ခံခြင်း။

(ဌ ) လေယာဉ်အရန်ပစ္စည်းများ ဝယ်ယူခြင်း ၊ သိုလှောင်ခြင်း ၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း များဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ -

(၁) မြန်မာနိုင်ငံရှိ အခြားလေကြောင်းလိုင်းများမှ အသုံးများသော လေယာဉ်သုံး အရန်ပစ္စည်းများ (Components , Parts , Consumable Items) အား စိစစ် စာရင်းပြုစုခြင်း၊ လေယာဉ်နှင့် လေယာဉ်ဆက်စပ် ပစ္စည်းထုတ်လုပ်သည့် မူရင်း ကုမ္ပဏီ (OEM - Original Equipments Manufacturer) နှင့် အခြားရောင်းချသူ များ (Other Stockist and Vendors) နှင့် ဆက်သွယ်၍ ဝယ်ယူ တင်သွင်းခြင်း ။

(၂) အဆိုပါ အရန်ပစ္စည်းများအား လေကြောင်းလိုင်းများ သို့ ရောင်းချမည့် ဈေးနှုန်းကို တွက်ချက်၍ စီမံခန့်ခွဲရေးအဖွဲ့သို့ တင်ပြအတည်ပြုချက် ရယူ ဆောင်ရွက် ခြင်း။

(၃) လေယာဉ် အရန်ပစ္စည်းများ နှင့် ဆက်စပ်ပစ္စည်းများအား တင်သွင်းရာတွင် သွင်းကုန်လိုင်စင်လျှောက်ထားခြင်းမှ ကင်းလွတ်ခွင့်ပြုရန်သက်ဆိုင်ရာ ဝန်ကြီး ဌာန သို့ လျှောက်ထားခြင်း။

(ဍ) လေယာဉ်စီး ခရီးသည်များကို မော်တော်ယာဉ်ဖြင့် ပို့ဆောင်ခြင်း လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ -

(၁) လေကြောင်းလိုင်းသည် ပြည်တွင်း ပြည်ပလေဆိပ်များ၌ လေယာဉ်စီး ခရီးသည် များကို မော်တော်ယာဉ်ဖြင့် ပို့ဆောင်ခြင်းလုပ်ငန်းအား သီးခြား ဖွဲ့စည်း ဆောင်ရွက်ခြင်း။

(၂) လုပ်ငန်းအတွက်လိုအပ်သောယာဉ်များဝယ်ယူခြင်း ၊ ရောင်းချခြင်း ၊ ငှားရမ်းခြင်း။

(ဎ) မြန်မာအမျိုးသားလေကြောင်း၏မတည်ငွေများနှင့်အများပြည်သူတို့၏အစုရှယ်ယာ များ ဖိတ်ခေါ်ထည့်ဝင်စေပြီး အများနှင့်သက်ဆိုင်သော ကော်ပိုရေးရှင်းအဖြစ် တည်ထောင်ပြီး လုပ်ကိုင်ဆောင်ရွက်နိုင်ခြင်းနှင့် စပ်လျဉ်း၍ -

(၁) မြန်မာအမျိုးသားလေကြောင်းသည် မိမိပိုင် အစုရှယ်ယာထက် မများသော ရှယ်ယာများကို မိမိဝန်ထမ်း နှင့် အများပြည်သူသို့ ဖိတ်ခေါ်ရောင်းချခြင်း။

(၂) နိုင်ငံခြားသား အစုရှယ်ယာ ထည့်သွင်းရန် ရှိလာပါက ဝန်ကြီးဌာနသို့ တင်ပြ ရယူခြင်း။

(ဏ) လေကြောင်းအာမခံ လုပ်ငန်းများကို သင့်လျော်သည့် အဖွဲ့အစည်းများနှင့် ပူးပေါင်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ မိမိကိုယ်တိုင်သော်လည်းကောင်း ၊ နိုင်ငံသား/နိုင်ငံခြားသား တို့နှင့် အကျိုးတူ ပူးပေါင်း၍သော်လည်းကောင်း ၊ ဖက်စပ်ကုမ္ပဏီ အဖြစ် သော်လည်းကောင်း ဆောင်ရွက်ခြင်း။

(တ) လေကြောင်းပို့ဆောင်ရေး လုပ်ငန်းနှင့် စပ်လျဉ်း၍ဖြစ်စေ ၊ လေကြောင်းလိုင်းပိုင် ဟိုတယ် လုပ်ငန်း ၊ အပန်းဖြေစခန်းနှင့် စားသောက်ဆိုင်လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ဖြစ်စေ မြန်မာအမျိုးသားလေကြောင်း နှင့် ပြည်တွင်း / ပြည်ပ ရင်းနှီးမြှုပ်နှံသည့် ပုဂ္ဂလိက လုပ်ငန်းရှင်တို့ အကျိုးတူပူးပေါင်း၍ (Joint Operation) သော် လည်းကောင်း ၊ ဖက်စပ်လုပ်ငန်း (Joint Venture) ကို

သော်လည်းကောင်း ၊ ပုဂ္ဂလိက နှင့် သဘောတူစာချုပ်ချုပ်ဆိုပြီး တည်ဆောက်-လုပ်ကိုင်-လွှဲပြောင်းစနစ် (BOT= Build -Operate –Transfer)၊ တည်ဆောက်-ပိုင်ဆိုင်-လုပ်ကိုင်-လွှဲပြောင်း စနစ် (BOOT=Build- Own- Operate-Transfer)၊ တည်ဆောက်-ပိုင်ဆိုင်-လုပ်ကိုင်စနစ် (BOO=Build-Own-Operate)၊ တည်ဆောက်-ငှားရမ်း-လွှဲပြောင်းစနစ် (BLT=Build-Lease-Transfer) ၊ ပုံစံထုတ်-တည်ဆောက်-ငွေကြေးပံ့ပိုး-လုပ်ကိုင်စနစ် (DBFO= Design-Build- Finance-Operate) ၊ ပုံစံထုတ်-ဆောက်လုပ်-စီမံ-ငွေကြေး ထောက်ပံ့စနစ် (DCMF= Design-Construct-Manage-Finance) စသည့် စနစ်တို့ဖြင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအလို့ငှာ လေကြောင်းပို့ဆောင်ရေးလုပ်ငန်းများကို တိုးချဲ့ လုပ်ကိုင်ဆောင်ရွက်ခြင်း။

(ထ) အရောင်းလုပ်ငန်း ၊ ကြော်ငြာလုပ်ငန်း ၊ အရောင်းမြှင့်တင်ရေးလုပ်ငန်း ၊ ကုန်စည်လက်ခံခြင်းလုပ်ငန်း၊ ကိုယ်စားလှယ်လုပ်ငန်းများ ၊ ခရီးစဥ်ရေးဆွဲခြင်းလုပ်ငန်း ၊ လေယာဥ်စင်းလုံးငှားရမ်းခြင်း လုပ်ငန်းများကိုဆောင်ရွက်ခြင်း၊

(ဒ) ခရီးစဥ်သစ်များ တိုးချဲ့နိုင်ရေး ၊ ပြည်တွင်း / ပြည်ပဌာနခွဲရုံးများ ဖွင့်လှစ်ရေး ၊ ကိုယ်စားလှယ်ရုံး ဖွင့်လှစ်ရေး ၊ အရောင်းကိုယ်စားလှယ်များ ခန့်ထားရေး ၊ လေကြောင်းလိုင်းများ ပူးပေါင်းဆောင်ရွက်ရေးတို့ကို ဆောင်ရွက်ခြင်း၊

(ဓ) ကုန်သယ်ဆောင်ခ၊လက်မှတ်နှုန်းထားများအားအခါအားလျော်စွာပြင်ဆင်သတ်မှတ်ခြင်း၊

(န) ဈေးကွက်အခြေအနေကိုလေ့လာ၍ မြန်မာအမျိုးသားလေကြောင်း၏ ခရီးစဥ်များ တိုးချဲ့ရေးအတွက် ဆောင်ရွက်ခြင်း၊

(ပ) မြန်မာအမျိုးသားလေကြောင်းပိုင် အဆောက်အဦ နှင့် ယာဥ်များအာမခံထားရှိခြင်း ၊ လိုအပ်သည့်အခါ လျော်ကြေးတောင်းဆိုခြင်းများ ဆောင်ရွက်ခြင်း၊

(ဖ) ရုံးသုံးစက်ပစ္စည်း ၊ ရုံးသုံးပရိဘောဂ နှင့် ရုံးသုံးစာရေးကိရိယာများ ဝယ်ယူခြင်း ၊ ဖြန့်ဝေခြင်း ၊ ထိန်းသိမ်းခြင်းများ ဆောင်ရွက်ခြင်း၊

(ဗ) ဝန်ထမ်းများ၏နိုင်ငံကူးလက်မှတ်များ လျှောက်ထားပေးခြင်း၊ သတ်တမ်းတိုးမြှင့်ခြင်း ဗီဇာလျှောက်ထားခြင်း နှင့် မြန်မာအမျိုးသားလေကြောင်းလုပ်ငန်းကိစ္စဖြင့် လာရောက်သည့်နိုင်ငံခြားသားများ၏ ပြည်ဝင်ဗီဇာများ ၊ ပြည်တွင်း နေထိုင်ခွင့် ကိစ္စများကို ဆောင်ရွက်ပေးခြင်း၊

(ဘ) မြန်မာအမျိုးသားလေကြောင်းဝန်ထမ်းများ၏ လူမှုဖူလုံရေးကိစ္စများ ဆောင်ရွက် ပေးခြင်း၊

(မ) မြန်မာအမျိုးသားလေကြောင်းပိုင် အဆောက်အဦများ ၊ ရုံးသုံးစက်ပစ္စည်းများ ၊ ရုံးသုံး ပရိဘောဂများ ပြင်ဆင်ထိမ်းသိမ်းခြင်း ၊ ဆောက်လုပ်ခြင်းလုပ်ငန်းရပ်များကို တာဝန်ယူ ဆောင်ရွက်ပေးခြင်း၊

(ယ) မော်တော်ယာဉ်ပို့ဆောင်ရေး၊ ပြင်ဆင်ထိန်းသိမ်းရေးကိစ္စများ ဆောင်ရွက်ပေးခြင်း၊

(ရ) မြန်မာအမျိုးသားလေကြောင်းဝန်ထမ်းများ၏လုပ်ငန်းခွင်ကျန်းမာရေးနှင့်ခရီးသည် များ၏ ကျန်းမာရေးကိစ္စများကို တာဝန်ယူဆောင်ရွက်ပေးခြင်း၊

myanmar

Myanmar National Airlines
104 Kanna Road
Kyauktada Township
Yangon
Myanmar

www.flymna.com

# လုပ်ငန်းသဘာဝရှင်းလင်းတင်ပြချက်

မြန်မာအမျိုးသားလေကြောင်း ( Myanmar National Airlines ) ၏ လုပ်ငန်းသဘာဝများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**၁။ ပြည်တွင်း ပြည်ပလေကြောင်း ခရီးစဉ်နှင့်စင်းလုံးငှားခရီးစဉ်များ ပြေးဆွဲခြင်း**

မြန်မာအမျိုးသားလေကြောင်း(Myanmar National Airlines) ပြည်တွင်းပြည်ပလေကြောင်း ခရီးစဉ်နှင့်စင်းလုံးငှားခရီးစဉ်များ ပြေးဆွဲခြင်းလုပ်ငန်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊ ပို့ဆောင်ရေးဝန်ကြီးဌာန ၊ လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနမှပြဋ္ဌာန်းသတ်မှတ်ထားသည့် အမိန့် ၊ ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရသည့်အပြင် နိုင်ငံတကာ လေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့များဖြစ်သည့်နိုင်ငံတကာမြို့ပြလေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့ [ International Aviation Transport Assocation (IATA) ]သတ်မှတ်ချက်များကိုပါလိုက်နာဆောင်ရွက်ရပါသည်။

**၂။ လေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်းနှင့်ဆက်စပ်သည့်လုပ်ငန်းများ**

လေကြောင်းလိုင်း ရေရှည်ရပ်တည်နိုင်ရန် နှင့် ဖွံ့ဖြိုးတက်စေရန်အတွက် လေကြောင်းသယ်ယူပို့ဆောင်ရေးလုပ်ငန်းနှင့်ဆက်စပ်သည့်အောက်ဖော်ပြပါလုပ်ငန်းများကိုပါဆောင်ရွက်လျက်ရှိပါသည် -

(က) ပြည်တွင်း ပြည်ပ လေယာဉ်မြေပြင်ဝန်ဆောင်မှုလုပ်ငန်း ၊ အခြားသော ဝန်ဆောင်မှုလုပ်ငန်း အမျိုးမျိုးတို့ကို ဆောင်ရွက်ခြင်း နှင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်ခြင်း၊ လေယာဉ်ဆီ ၊ စက်ဆီ ၊ ချောဆီများ ဝယ်ယူခြင်း ၊ သိုလှောင်ခြင်း ၊ ဖြန့်ဖြူးရောင်းချခြင်း၊

(ခ) လေယာဉ်တင် အစားအစာလုပ်ငန်း ဆောင်ရွက်ခြင်း၊

(ဂ) ပြည်တွင်း ပြည်ပ လေကြောင်းလိုင်းများနှင့် လက်မှတ်အရောင်းကိုယ်စားလှယ်လုပ်ငန်း ဆောင်ရွက်ခြင်း၊

(ဃ) ပြည်တွင်း ပြည်ပ လေကြောင်းလိုင်းများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းနှင့် ပြည်တွင်း ပြည်ပ ရင်းနှီးမြှုပ်နှံသူတို့နှင့် သီးခြားလုပ်ငန်းသဘောတူစာချုပ် ချုပ်ဆို၍ ဖက်စပ် ကုမ္ပဏီတူထောင် ဆောင်ရွက်ခြင်း၊

၁၃။ ဝန်ကြီးဌာနသည် သတ်မှတ်ထားသည့် အကြောင်းတစ်ရပ်ရပ်နှင့် ငြိစွန်းသော ဥက္ကဋ္ဌ သို့မဟုတ် အဖွဲ့ဝင် တစ်ဦးဦးကို ရာထူးမှ နုတ်ထွက်ရန် ညွှန်ကြားနိုင်သည်။ ညွှန်ကြားသည့်အတိုင်း လိုက်နာခြင်း မပြုလျှင် တာဝန်မှရပ်စဲရမည်။

၁၄။ ဥက္ကဋ္ဌ နှင့်အဖွဲ့ဝင်များသည် စီမံခန့်ခွဲရေးအဖွဲ့က သတ်မှတ်ပြီး ဝန်ကြီးဌာနက သဘောတူ ခွင့်ပြုသည့် ချီးမြှင့်ငွေနှင့် စရိတ်တို့ကို ခံစားခွင့်ရှိသည်။

၁၅။ (က) ဝန်ကြီးဌာနသည် အကြောင်းတစ်ခုခုကြောင့် အဖွဲ့ဝင်ရာထူး နေရာလစ်လပ်လျှင် လစ်လပ်သည့်နေ့ရက်မှ ရက်ပေါင်း ၃၀ အတွင်း အဖွဲ့ဝင်အသစ်ကို လုပ်ထုံးလုပ်နည်း များနှင့်အညီ ဖြည့်စွက် ခန့်ထားရမည်။

(ခ) စီမံခန့်ခွဲရေးအဖွဲ့က စီမံဆောင်ရွက်သည့် ကိစ္စရပ်များသည် အဖွဲ့ဝင်ရာထူးလစ်လပ် သည့် အကြောင်းကြောင့်သော်လည်းကောင်း ၊ အဖွဲ့ဝင်တစ်ဦးဦး ခန့်ထားရာတွင် ချို့ယွင်းချက် တစ်ခုခု ရှိသည့် အကြောင်းကြောင့်သော်လည်းကောင်း မပျက်ပြယ်စေရ။

## အခန်း (၆)

## စီမံခန့်ခွဲရေးအဖွဲ့၏ တာဝန် နှင့် လုပ်ပိုင်ခွင့်များ

၁၆။ စီမံခန့်ခွဲရေးအဖွဲ့၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည် -

(က) နိုင်ငံပိုင်ပစ္စည်းများ နှင့် ဘဏ္ဍာငွေများကို အလေအလွင့် ၊ အဆုံးအရှုံး ၊ အပျက်အစီး ၊ အပျောက်အရှ အနည်းဆုံးဖြစ်အောင် ထိန်းသိမ်းခြင်း၊

(ခ) ဝင်ငွေ နှင့် အကျိုးအမြတ် တိုးတက်စေရေးအတွက် သင့်လျော်သော နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်း၊

(ဂ) ဝန်ထမ်းများ၏ ရပိုင်ခွင့်များကို ရရှိစေခြင်း၊

(ဃ) ဘဏ္ဍာရေးဆိုင်ရာ စည်းမျဉ်း နှင့် စည်းကမ်းများ ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ခြင်း၊

(င) မိမိလုပ်ငန်းတစ်ခုလုံး၏ အောင်မြင်မှု ၊ ဆုံးရှုံးမှုကို တာဝန်ခံခြင်း၊

(စ) လေကြောင်းလုပ်ငန်းဌာနများရှိ တာဝန်ခံ ဝန်ထမ်းများက ယင်းတို့တာဝန်ယူသည့် လုပ်ငန်း၏အောင်မြင်မှု ၊ ဆုံးရှုံးမှုကို တာဝန်ခံစေရန် စီမံကြီးကြပ်ခြင်း။

၁၇။ စီမံခန့်ခွဲရေးအဖွဲ့၏ လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်သည် -

(က) မြန်မာအမျိုးသားလေကြောင်းသည် ဤဥပဒေအရ လုပ်ငန်းဆောင်ရွက်နိုင်ရေးအတွက် လိုအပ်သောငွေကြေးအရင်းအနှီးများကိုဝန်ကြီးဌာန၏ ကြိုတင် သဘောတူညီချက်ဖြင့် ပြည်တွင်း ပြည်ပဘဏ်များ နှင့် ငွေရေးကြေးရေး အဖွဲ့အစည်းများထံမှ ဥပဒေနှင့်အညီ ငွေချေးယူခြင်း ၊ ပြန်လည်ပေးဆပ်ခြင်း ၊ ငွေထုတ်ချေးခြင်း ၊ ပြန်လည်ရယူခြင်းနှင့် အထောက်အပံ့များ ရယူခြင်း၊

(ခ) မြန်မာအမျိုးသားလေကြောင်းသည် နိုင်ငံတော်၏ အုပ်ချုပ်ရေး ၊ ကာကွယ်ရေးနှင့် အရေးပေါ်ကိစ္စရပ်များတွင် ငွေကြေးအကျိုးအမြတ်မယူသော နိုင်ငံတော်အလံတင် လေကြောင်းလိုင်းဖြစ်သည့် အားလျော်စွာ သင့်လျော်သည့် အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ရရှိရန် ဝန်ကြီးဌာနမှတဆင့် ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ခွင့်ရှိခြင်း၊

(ဂ) သင့်လျော်သည့် လုပ်ငန်းအဖွဲ့များကို ဖွဲ့စည်းတာဝန်ပေးအပ်ခြင်း၊

(ဃ) လိုအပ်ပါက အကြံပေးပုဂ္ဂိုလ်များကို သတ်မှတ်ချက်နှင့်အညီ ခန့်အပ်ခြင်း ၊ ချီးမြှင့်ငွေ နှင့် စရိတ်များကို သတ်မှတ်ပေးအပ်ခြင်း၊

(င) နိုင်ငံတော်က လွှဲအပ်သည့် သို့မဟုတ် လုပ်ပိုင်ခွင့်ပေးအပ်သည့် ရွှေ့ပြောင်းနိုင်သော ပစ္စည်း နှင့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို ရယူခွင့် ၊ လက်ဝယ်ထားပိုင်ခွင့် နှင့် လေကြောင်းလုပ်ငန်းများတွင် အသုံးပြုပိုင်ခွင့် ရှိခြင်း၊

(စ) ကုန်စည်များ လက်ခံတင်ဆောင်ခြင်း ၊ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းတို့ကို ကိုယ်စားလှယ် လုပ်ငန်းအသွင်ဖြင့် ဆောင်ရွက်ပိုင်ခွင့်ရှိခြင်း၊

(ဆ) လုပ်ငန်းဆိုင်ရာဝန်ဆောင်ခနှုန်း ၊ လုပ်ခနှုန်း ၊ ထုတ်လုပ်မှုနှုန်း ၊ ခရီးသည်နှင့် ကုန်စည် ပို့ဆောင်သည့်ဝန်ဆောင်ခနှုန်းများကို သတ်မှတ်ချက်များနှင့်အညီ သတ်မှတ်ခွင့် ၊ ပြင်ဆင်ခွင့်ရှိခြင်း၊

(ဇ) အလုပ်ချိန်များ အလုပ်ခွင်စည်းမျဥ်း နှင့် စည်းကမ်းများကို တည်ဆဲဥပဒေများနှင့် အညီ သတ်မှတ်ဆောင်ရွက်ခွင့်ရှိခြင်း၊

(ဈ) ကုန်ထုတ်လုပ်မှု၊ ဝန်ဆောင်မှုနှင့် ကုန်သွယ်မှုလုပ်ငန်းများကို ကန်ထရိုက် စနစ်ဖြင့်သော် လည်းကောင်း ၊ ငှားရမ်းလုပ်ကိုင်ခြင်း စနစ်ဖြင့်သော်လည်းကောင်း ၊ အကျိုးတူစနစ်ဖြင့် သော်လည်းကောင်း ၊ တည်ဆောက် လုပ်ကိုင် လွှဲပြောင်း စနစ်ဖြင့် သော်လည်းကောင်း

ဆောင်ရွက်ရာတွင် ပြည်တွင်း ပြည်ပ လုပ်ငန်းရှင်များနှင့် ပူးပေါင်းဆောင်ရွက်ပိုင်ခွင့် ရှိခြင်း၊

(ည) စက်ပစ္စည်း ၊ စက်ကိရိယာ ၊ မြေ ၊ အဆောက်အအုံ ၊ လေယာဉ် နှင့် အခြားပိုင်ဆိုင်ခွင့်များကို ပြည်တွင်း ပြည်ပ လုပ်ငန်းရှင်များအား သတ်မှတ်ချက်များနှင့်အညီ ငှားရမ်းနိုင်ခြင်း၊

(ဋ) အခန့်န်းထားများ နှင့် ငှားရမ်းခသတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ပြန်အမ်းခြင်း နှင့် လျှော့ပေါ့ခွင့်ပြုခြင်း၊

(ဌ) လေယာဉ် ၊ ရဟတ်ယာဉ် ၊ ယာဉ် နှင့် အသုံးမလိုတော့သည့် ပစ္စည်းများ ၊ လေယာဉ်နှင့် စက်ယန္တရားများကို ပြင်ဆင်ရာမှ ရရှိသည့် အသုံးမလို ပိုလျှံပစ္စည်းများကို ထုခွဲရောင်းချခြင်းနှင့် လဲလှယ်ခြင်း၊

(ဍ) ကျွမ်းကျင်သော ဝန်ထမ်းများ လေ့ကျင့်မွေးထုတ်နိုင်ရေး အတွက် ပြည်တွင်း ပြည်ပမှ ပညာရှင်များ ၊ အဖွဲ့အစည်းများနှင့် ပူးပေါင်း၍ သင်တန်းကျောင်းများ ဖွင့်လှစ်ခြင်းနှင့် ပြည်တွင်း ပြည်ပ သင်တန်းများသို့ စေလွှတ်ခြင်း။

၁၈။ စီမံခန့်ခွဲရေးအဖွဲ့သည် -

(က) မြန်မာအမျိုးသားလေကြောင်းရှိ အရာထမ်းများ၊ အမှုထမ်းများ ၊ လေယာဉ်မှူးများ၊ အင်ဂျင်နီယာများကို တည်ဆဲဥပဒေ ၊ နည်းဥပဒေများ ၊ စည်းမျဉ်းနှင့် စည်းကမ်းများနှင့် အညီ ခန့်ထားခြင်း ၊ တာဝန်ပေးခြင်း ၊ ရာထူးတိုးမြှင့်ပေးခြင်း ၊ ပြောင်းရွှေ့ခြင်း ၊ အရေးယူအပြစ်ပေးခြင်း နှင့် အငြိမ်းစားပေးခြင်း တို့ကို ဆောင်ရွက် ရမည်။

(ခ) ပုဒ်မခွဲ (က) အရ အရာထမ်းများ ၊ လေယာဉ်မှူးများ နှင့် အင်ဂျင်နီယာများကို အသက် ၆၀ ပြည့်ပါက သက်ပြည့် အငြိမ်းစားယူခွင့်ပေးခြင်း သို့မဟုတ် လုပ်ငန်းလိုအပ်ချက်အရ ကျန်းမာရေးကောင်းမွန်ပြီး ဆက်လက်တာဝန်ထမ်းဆောင်လိုသော အရာထမ်းများ ၊ လေယာဉ်မှူးများနှင့် အင်ဂျင်နီယာများကို အသက် ၆၅ နှစ် ပြည့်သည့်အချိန်ထိ တစ်နှစ်လျှင် တစ်ကြိမ် သက်တမ်းတိုးမြှင့်၍ ဆောင်ရွက်စေနိုင်သည်။

၁၉။ စီမံခန့်ခွဲရေးအဖွဲ့သည် -

(က) ဤဥပဒေအရ ဖွဲ့စည်းသည့် မြန်မာအမျိုးသားလေကြောင်း သို့ ပြောင်းရွှေ့တာဝန်ထမ်းဆောင်သော ဝန်ထမ်းများအတွက် ယင်းတို့ခံစားခွင့်ရှိသော လစာ၊စရိတ်၊ ကရုဏာကြေး ၊ နစ်နာကြေး ၊ ချီးမြှင့်ငွေ ၊ ပင်စင် နှင့် အငြိမ်းစားယူမှုဆိုင်ရာ ကိစ္စရပ်များ ကို

ယင်းတို့ စတင်ပြောင်းရွှေ့သည့် နေ့ရက်မှစ၍ အချိန်ကာလတွက်ချက်ပြီး ခံစားခွင့်ပြုရမည်။

(ခ) မြန်မာအမျိုးသားလေကြောင်း လုပ်ငန်းစီမံကိန်း လျာထားချက်အတိုင်း အောင်မြင်စွာအကောင်အထည်ဖော်ဆောင်ရွက်နိုင်သော ဝန်ထမ်းများအား ဆုကြေးငွေချီးမြှင့်နိုင်သည်။

## အခန်း (၇)

## ဘဏ္ဍာရေး၊ ငွေရေးကြေးရေးနှင့် စာရင်းများ

၂၀။ မြန်မာအမျိုးသားလေကြောင်းသည် -

(က) မြန်မာအမျိုးသားလေကြောင်းကလွှဲပြောင်းရယူမည့်နိုင်ငံတော်ပိုင် ပုံသေပိုင်ပစ္စည်းများအားပြည်ထောင်စုအစိုးရအဖွဲ့၏သဘောတူခွင့်ပြုချက်အရကာလပေါက်ဈေးဖြင့်တန်ဖိုးတွက်ချက်သတ်မှတ်၍ နိုင်ငံတော်၏ရင်းနှီးမြှုပ်နှံမှု တန်ဖိုးအဖြစ်ဖော်ပြ ထားရမည်။

(ခ) နှစ်စဉ်လုပ်ငန်းစီမံချက် နှင့် အရအသုံးခန့်မှန်းခြေငွေစာရင်းတို့ကို ရေးဆွဲ၍ စီမံခန့်ခွဲရေးအဖွဲ့က အတည်ပြုပြီး ဝန်ကြီးဌာနသို့ ပေးပို့ရမည်။

(ဂ) ဘဏ္ဍာရေးနှစ်အလိုက် စုစုပေါင်း ရငွေ သုံးငွေများအား ပြည်ထောင်စု၏ ဘဏ္ဍာငွေအရအသုံး ခန့်မှန်းခြေ ငွေစာရင်းတွင် ဘဏ္ဍာငွေ အရအသုံးဆိုင်ရာ ဥပဒေနှင့်အညီသီးခြားဖော်ပြ၍ ထည့်သွင်းရေးဆွဲရမည်။

(ဃ) ရငွေ သုံးငွေများကို စီမံခန့်ခွဲရေးအဖွဲ့က သတ်မှတ်သည့် ပြည်တွင်း ပြည်ပ ဘဏ်များတွင်ငွေစာရင်းများကို ဘဏ္ဍာရေးစည်းမျဉ်းနှင့် စည်းကမ်းများနှင့်အညီ ဖွင့်လှစ်ထားရှိရမည်။

(င) မိမိရရှိသော နိုင်ငံခြားဝင်ငွေကို စီမံခန့်ခွဲရေးအဖွဲ့၏ သဘောတူ ခွင့်ပြုချက်ဖြင့် ထုတ်ယူသုံးစွဲပိုင် ခွင့်ရှိသည်။

(စ) မိမိလက်အောက်ရှိ လုပ်ငန်းအုပ်စုအလိုက်လည်းကောင်း ၊ လုပ်ငန်း တစ်ခုချင်းအလိုက်လည်းကောင်း ရငွေ သုံးငွေ အခြေအနေများ ပေါ်လွင်စေရန် သီးခြား ငွေစာရင်းများဖွင့်လှစ်ထားရှိရမည်။

(ဆ) ပြည်ထောင်စုအစိုးရအဖွဲ့က နှစ်စဉ်သတ်မှတ်ပေး သည့် နိုင်ငံတော်သို့ ထည့်ဝင်ငွေနှင့်တည်ဆဲဥပဒေအရ ကျသင့်သည့် အခွန်အခများကို ပေးသွင်းရမည်။

(ဇ) မိမိ၏ ဝန်ထမ်းများအတွက် ပင်စင်ရန်ပုံငွေကို သီးခြားထားရှိရမည်။

(ဈ) စီမံခန့်ခွဲရေးအဖွဲ့၏ သဘောတူညီချက်ဖြင့် အောက်ပါရန်ပုံငွေများကို ထားရှိရမည်-

(၁) ဆုကြေးရန်ပုံငွေ ၊

(၂) သက်သာချောင်ချိရေးရန်ပုံငွေ ၊

(၃) ဖွံ့ဖြိုးမှုရန်ပုံငွေ ၊

(၄) တန်ဖိုးယုတ်လျော့မှုရန်ပုံငွေ ၊

(၅) အခြားလိုအပ်သော ရန်ပုံငွေ။

(ည) ဌာနတွင်း ကြီးကြပ်ကွပ်ကဲမှု စနစ်ထားရှိပြီး ဌာနတွင်း စာရင်းစစ်အဖွဲ့ ဖွဲ့စည်းဆောင်ရွက်ရမည်။

( ဋ ) အောက်ပါ စာရင်းများကို စီမံခန့်ခွဲရေးအဖွဲ့သို့ သတ်မှတ်ချက်နှင့်အညီ တင်ပြရမည်-

(၁) ဝန်ထမ်းအင်အားစာရင်း၊

(၂) ငွေသားအခြေအနေ၊

(၃) ကုန်ပစ္စည်းထုတ်လုပ်သည့်၊ရောင်းဝယ်သည့် သို့မဟုတ် ဝန်ဆောင်သည့်စာရင်း၊

(၄) အရှုံး အမြတ် စာရင်း ၊

(၅) လက်ကျန်ရှင်းတမ်း။

(ဌ) မြန်မာအမျိုးသားလေကြောင်း၏လုပ်ငန်းနှင့်စာရင်းများကိုပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး သို့မဟုတ် မြန်မာနိုင်ငံ စာရင်းကောင်စီတွင် မှတ်ပုံတင်ထားသော စာရင်းစစ်အဖွဲ့ သို့မဟုတ် နိုင်ငံတကာ အသိအမှတ်ပြု စာရင်းစစ်အဖွဲ့၏ စစ်ဆေးမှု ခံယူရမည်။

## အခန်း (၈)

## ဆုကြေးငွေချီးမြှင့်ခြင်း

၂၁။ မြန်မာအမျိုးသားလေကြောင်းသည် ဝန်ထမ်းများ၏ လုပ်ငန်းစွမ်းဆောင်ရည် တိုးတက်စေရေးအတွက် လုပ်ငန်းရပ်တစ်ခုချင်းအလိုက် သတ်မှတ်စံချိန်စံနှုန်းဖြင့် တွက်ချက်ထားသည့် အပိုကြေးကို ခံစားခွင့်ပြုနိုင်သည်။

၂၂။ ဝန်ထမ်းများသည် သီးခြား တာဝန်ပေးချက်အရ ဆောင်ရွက်ရသည့် လုပ်ငန်းတစ်ရပ်ရပ်အတွက် ချီးမြှင့်ငွေ သို့မဟုတ် အခကြေးငွေကို သက်ဆိုင်ရာ စည်းမျဉ်း နှင့် စည်းကမ်းများနှင့် အညီ ခံစားခွင့်ရှိသည်။

## အခန်း (၉)

## အထွေထွေ

၂၃။ စီမံခန့်ခွဲရေးအဖွဲ့ဝင်များ နှင့် မြန်မာအမျိုးသားလေကြောင်း၏ အရာထမ်း ၊ အမှုထမ်းအားလုံး သည် ဤဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်သောအခါ သို့မဟုတ် ဆောင်ရွက်သည့် သဘော သက်ရောက်သောအပြုအမူကို ပြုသောအခါ ရာဇသတ်ကြီး ပုဒ်မ ၂၁ အရ ပြည်သူ့ဝန်ထမ်း များ ဖြစ်သည်ဟု မှတ်ယူရမည်။

၂၄။ ဤဥပဒေပါ ပြဋ္ဌာန်းချက်များကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် -

(က) ဝန်ကြီးဌာနသည် နည်းဥပဒေများ ၊ စည်းမျဉ်းနှင့် စည်းကမ်းများကို ပြည်ထောင်စုအစိုးရ အဖွဲ့၏ သဘောတူညီချက်ဖြင့် ထုတ်ပြန်နိုင်သည်။

( ခ ) ဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေးအဖွဲ့ နှင့် မြန်မာအမျိုးသားလေကြောင်းသည် အမိန့်ကြော်ငြာစာ ၊ အမိန့် ၊ ညွှန်ကြားချက်နှင့် လုပ်ထုံးလုပ်နည်းများကို ထုတ်ပြန်နိုင် သည်။

၂၅။ ၁၉၅၂ ခုနှစ် ၊ ပြည်ထောင်စုမြန်မာနိုင်ငံလေကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့အက်ဥပဒေ (၁၉၅၂ခုနှစ်၊ အက်ဥပဒေအမှတ် ၃၉ )ကို ဤဥပဒေဖြင့် ရုပ်သိမ်းလိုက်သည်။

---

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဖွဲ့စည်းပုံအခြေခံဥပဒေအရ ကျွန်ုပ်လက်မှတ်ရေးထိုးသည်။

(ပုံ) သိန်းစိန်
နိုင်ငံတော်သမ္မတ
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ(၁၉၁၄)

နှင့်

(၁၉၅၀)ပြည့်နှစ်အထူးကုမ္ပဏီအက်ဥပဒေ

အရ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

မြန်မာအမျိုးသားလေကြောင်း

ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT(1914)

&

YEAR THE SPECIAL COMPANY ACT(1950)

PRIVATE COMPANY LIMITED SHARES

*MEMORANDUM OF ASSOCIATION*

*ARTICLES OT ASSOCIATION*

OF

**MYANMAR NATIONAL AIRLINES**

**COMPANY LIMITED**

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ(၁၉၁၄)

# နှင့်

# (၁၉၅၀)ပြည့်နှစ်အထူးကုမ္ပဏီ အက်ဥပဒေ

# အရ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

# **မြန်မာအမျိုးသားလေကြောင်း**

# **ကုမ္ပဏီ လီမိတက်**

# **၏**

# **သင်းဖွဲ့မှတ်တမ်း**

✵ ✵ ✵ ✵ ✵ ✵ ✵ ✵ ✵ ✵ ✵

၁။ ကုမ္ပဏီ၏အမည်သည် မြန်မာအမျိုးသားလေကြောင်း ကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီမှတ်ပုံတင် မှတ်ပုံတင်ရုံးသည် ၁၀၄၊ ကမ်းနားလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့ တွင်တည်ရှိရမည်။

၃။ မြန်မာအမျိုးသားလေကြောင်း( မြန်မာအမျိုးသားလေကြောင်း ကုမ္ပဏီလီမိတက် ) သည် ပို့ဆောင်ရေးဝန်ကြီးဌာန၏ ၄-၅-၂၀၁၅ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊(၇၀/၂၀၁၅) အရ မြန်မာ့လေကြောင်း ၏ ပိုင်ဆိုင် ပစ္စည်း များ အားလုံး နှင့်လုပ်ငန်း တာဝန်များကို မြန်မာအမျိုးသားလေကြောင်း(မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်)သို့ လွှဲပြောင်း ဆက်ခံ ခွင့်ပြုထားပါသည်။

၄။ ဤကုမ္ပဏီကို ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေ (၁၉၅၀ပြည့်နှစ်၊ အက်ဥပဒေ အမှတ် ၅၄)အရ တည်ထောင်ထားခြင်းဖြစ်ပါသည်။ အထူးကုမ္ပဏီအဖြစ် တည်ထောင်ရခြင်းမှာ ဤကုမ္ပဏီ၌ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းဖြစ်သည့် မြန်မာအမျိုးသားလေကြောင်းသည် အကျိုးတူ ရှယ်ယာများ ပိုင်ဆိုင်သောကြောင့် ဖြစ်ပါသည်။

၅။ ဤကုမ္ပဏီသည် သင်းဖွဲ့မှတ်တမ်း သို့မဟုတ် သင်းဖွဲ့စည်းမျဉ်းများနှင့် လိုက်လျောညီထွေ မရှိသော ပြဋ္ဌာန်းချက်များမှအပ ၁၉၁၄ ခုနှစ် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်း ချက်များကို လိုက်နာရမည်။

၆။ ဤကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြန်မာအမျိုးသားလေကြောင်း လုပ်ငန်းကို နည်းလမ်းတကျ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် မြန်မာအမျိုးသားလေကြောင်းနှင့် စီမံခန့်ခွဲရေးအဖွဲ့အား လုပ်ပိုင်ခွင့်များအပ်နှင်းနိုင်ရန်၊

(ခ) မြန်မာအမျိုးသားလေကြောင်းလုပ်ငန်း ပိုမိုဖွံ့ဖြိုးတိုးတက်စေရေးနှင့် လေကြောင်းခရီးသွားလာမှုတွင် ဘေးအန္တရာယ်ကင်းရှင်းပြီး လုံခြုံမှုရှိစေရန်၊

(ဂ) မြန်မာအမျိုးသားလေကြောင်း၏ စီမံအုပ်ချုပ်မှုနှင့် ငွေကြေးသုံးစွဲမှုစနစ်များကို ဈေးကွက် စီးပွားရေးစနစ်နှင့်အညီ စီးပွားရေးဆန်ဆန် လွတ်လပ်စွာ ဆောင်ရွက်နိုင်ရန်၊

(ဃ) မြန်မာအမျိုးသားလေကြောင်းလုပ်ငန်းများကို ပြည်တွင်းပြည်ပ မှရင်းနှီးမြှုပ်နှံသူများအားစည်းကမ်းချက်များ သတ်မှတ်၍ စနစ်တကျ လုပ်ကိုင်ခွင့်ပြုနိုင်ရေးအတွက် မြန်မာအမျိုး သား လေကြောင်းကိုပြောင်းလဲဖွဲ့စည်းရန်၊

(င) မြန်မာအမျိုးသားလေကြောင်းကို အပြည်ပြည်ဆိုင်ရာ စီးပွားရေးအဖွဲ့အစည်းများနှင့် ဆက်သွယ်ပါဝင်ဆောင်ရွက်နိုင်ရန်၊

(စ) နိုင်ငံတော်အလံတင်နိုင်ငံ့ဂုဏ်ဆောင်လေကြောင်း (National Flag Carrier) အနေဖြင့် ပြည်တွင်းပြည်ပခရီးသည်နှင့်ကုန်ပစ္စည်းများအား သယ်ဆောင်သူများ အဖြစ်လုပ်ကိုင်ဆောင်ရွက်ရန် နှင့် အဆိုပါ လုပ်ငန်းများအား ပုံမှန်လေကြောင်းခရီးစဉ် (Schedule flight) ပြေးဆွဲခြင်းအားဖြင့်လည်းကောင်း၊ ကုမ္ပဏီအာမခံချက်ရရှိ၍ အကျိုးအမြတ်ဖြစ်ထွန်းစေ မည်ဖြစ်သော ခရီးစဉ်များအတွက် စင်းလုံးငှားပျံသန်းမှုများ (Charter flight) လုပ်ကိုင်ဆောင်ရွက်ပေးခြင်းအားဖြင့်လည်းကောင်း၊ ကုန်စည်များပို့ဆောင်ခြင်း (Cargo Flight) Bonded Cargo Warehouse လုပ်ငန်းအား Airside နှင့် landside တို့တွင် လုပ်ကိုင်ဆောင်ရွက်ပေးခြင်းအားဖြင့်လည်းကောင်း အဆိုပါလုပ်ငန်းများကို တာဝန်ယူ လုပ်ကိုင်ဆောင်ရွက်ရန်၊

(ဆ ) ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ လေဆိပ်တစ်ခုခုသို့ ဖြတ်သန်းသွားလာရန် (သို့မဟုတ်) ကုမ္ပဏီက ပုံမှန်ခရီးစဉ်ဖြစ်စေ၊ စင်းလုံးငှားခရီးစဉ်ဖြစ်စေ၊ ပျံသန်းသည့် ခရီးစဉ်များရှိ မည်သည့် နိုင်ငံခြားလေဆိပ်မြို့၌ အစပြု၍လည်းကောင်း၊ အဆုံးသတ်၍

လည်းကောင်း၊ ဖြတ်သန်း၍လည်းကောင်း၊ သွားလာရန် ခရီးသွားအစီအစဉ်ရှိသော ခရီးလှည့်သွားလာသူများအတွက် ခရီးလှည့်သွားလာခြင်း လုပ်ငန်းကို တာဝန်ယူ လုပ်ကိုင် ဆောင်ရွက်ရန်၊

(ဇ) ပြည်တွင်းပြည်ပ လေယာဉ်မြေပြင်ဝန်ဆောင်မှုလုပ်ငန်း၊ အခြားသော ဝန်ဆောင်မှု လုပ်ငန်း အမျိုးမျိုးတို့ကို ဆောင်ရွက်ခြင်းနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်ခြင်း၊

(ဈ) လေယာဉ်ဆီ၊ စက်ဆီ၊ ချောဆီများဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ဖြန့်ဖြူးရောင်းချခြင်း၊

(ည) လေကြောင်းအာမခံလုပ်ငန်းများကို သင့်လျော်သည့်အဖွဲ့အစည်းများနှင့် ပူးပေါင်း ဆောင်ရွက်ခြင်း၊

(ဋ) လေကြောင်းလုပ်ငန်းနှင့်ဆက်စပ်သော ဟိုတယ်များ၊ မိုတယ်များ၊ အပန်းဖြေစခန်းများ၊ တည်းခိုခန်းများ၊ တည်းခိုရိပ်သာများ၊ စားတော်ဆက်များ၊ လွှာက်ရည်ဆိုင်များကို ပိုင်ဆိုင်ရန်၊ စီမံအုပ်ချုပ်ရန် (သို့မဟုတ်) လုပ်ကိုင်ဆောင်ရွက်ရန် (သို့မဟုတ်) ငှားရမ်းရန် (သို့မဟုတ်) ယင်းကဲ့သို့သော အဖွဲ့အစည်းလုပ်ငန်းများကို တည်ထောင်ဆောင်ရွက်ရန် (သို့မဟုတ်) ယင်းလုပ်ငန်းအဖွဲ့အစည်းများ (သို့မဟုတ်) ယင်း အဖွဲ့အစည်းများနှင့် ဆက်သွယ်ဆောင်ရွက်သည့် အဖွဲ့အစည်းများနှင့် ကုမ္ပဏီ၏လုပ်ငန်းတိုးချဲ့ရေးအတွက် အစီအစဉ်များပြုလုပ်ရန်။

(ဌ) ပြည်တွင်းပြည်ပလေကြောင်းပျံသန်းစဉ် စားသောက်ကုန်ပစ္စည်းများ၊ အလှကုန်ပစ္စည်း များ၊ လူ့အသုံးအဆောင်များ၊ ဝိုင်အရက်၊ အရက်၊ စီးကရက်နှင့် ဆေးရွက်ထွက် ပစ္စည်းနှင့် အရက်မဟုတ်သောအဖျော်ယမကာမျိုးစုံတို့ကို duty free (အကောက် ခွန်မဲ့) ရောင်းဝယ်ဖေါက်ကားရန်။

(ဍ) ကုမ္ပဏီလုပ်ငန်းအတွက်နှင့် ကုမ္ပဏီအကျိုးအမြတ်အတွက် မည်သည့်လေယာဉ်ကိုမဆို ဝယ်ယူခြင်း၊ ပိုင်ဆိုင်ခြင်း၊ ငှားရမ်းခြင်း စင်းလုံးငှားခြင်း၊ တပ်ဆင်ခြင်း၊ ပြေးဆွဲပျံသန်း ခြင်းနှင့် ပြင်ဆင်ထိန်းသိမ်းခြင်းတို့ကို ပြုလုပ်ရန်။

(ဎ) ကုမ္ပဏီလုပ်ငန်းများအတွက် ကုမ္ပဏီက လိုအပ်သည်ဟု ထင်မြင်ယူဆလျှင် ခရီးသွား လာရေးလုပ်ငန်း၊ လေကြောင်းသယ်ယူ ပို့ဆောင်ရေးလုပ်ငန်း နှင့် ပတ်သက်သော

လုပ်ပိုင်ခွင့်များ သို့မဟုတ် အထူးအခွင့်အရေးများအပြင် ယင်းလုပ်ငန်းများ နှင့် ဆက်နွယ်နေသည့် သို့မဟုတ် အထောက်အကူပြုဖြစ်စေသည့် အထူးသဖြင့် အဆိုပါ လုပ်ပိုင်ခွင့်များ သို့မဟုတ် အထူး အခွင့်အရေးများကို ဝယ်ယူခြင်း၊ ငှားယူခြင်း သို့မဟုတ် အခြားနည်းရယူခြင်းများ ပြုလုပ်ရန်။

(ဏ) အကျိုးအမြတ်များ ရရှိအောင်ဆောင်ရွက်ခြင်း သို့မဟုတ် စာရင်းရေးသွင်းခြင်းများ ပြုလုပ်ရန် အခြေအနေနှင့် အချိန်အခါပေးလာသောအခါ Capital Markets များတွင် စာရင်းဝင်သည့် ကုမ္ပဏီမှ ရှယ်ယာများကို ရယူခြင်းအားဖြင့် Capital Markets များတွင် အကျိုးအမြတ်ရအောင် လုပ်ကိုင်ဆောင်ရွက်ရန်။

(တ) အထက်ဖော်ပြပါ ရည်ရွယ်ချက်များ သို့မဟုတ် ရည်ရွယ်ချက်တစ်ခုခု ထမြောက်အောင် မြင်မှု နှင့် အကြောင်းဆက်စပ်နေသော သို့မဟုတ် ထမြောက်အောင်မြင်ရန် အထောက် အပံ့ဖြစ်စေသော ကိစ္စအားလုံးကို လုပ်ကိုင်ဆောင်ရွက်ရန်၊ ယင်းဆောင်ရွက်ချက် အတွက် လိုအပ်သောထောက်ပံ့ရေးပစ္စည်းများနှင့် ကိရိယာတန်ဆာပလာ အသုံး အဆောင်များကို နိုင်ငံခြားမှ အခွန်လွတ်စနစ်ဖြင့် တင်သွင်းခြင်း အပါအဝင် ဖြစ်သည်။

(ထ) ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်း တွင်ဖော်ပြပါရှိသော စီးပွားရေးလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ရန်။

(ဒ) လုပ်ကိုင်ဆောင်ရွက်ရန်အတွက် ကုမ္ပဏီအား အာဏာအပ်နှင်းထားသည့် စီးပွားရေး တစ်ခုခု၊ သို့မဟုတ် လုပ်ငန်းတစ်ခုခုကိုသော်လည်းကောင်း၊ ကုမ္ပဏီအား တိုက်ရိုက် ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ၊ အကျိုးခံစားခွင့်ရှိစေမည့် စီးပွားရေးတစ်ခုခု၊ သို့မဟုတ် လုပ်ငန်းတစ်ခုခုကို သော်လည်းကောင်း လုပ်ကိုင်နေသည့် သို့မဟုတ် လုပ်ကိုင်မည့် ဆဲဆဲဖြစ်သော သူတစ်ဦးဦး သို့မဟုတ် ကုမ္ပဏီတစ်ခုခုနှင့် အစုစပ်လုပ်ငန်း သို့မဟုတ် အမြတ်ခွဲဝေရန်အစီအစဉ်တစ်ခုခု၊ အကျိုးတူဖက်စပ်ဆောင်ရွက်မှုလုပ်ငန်း၊ ပူးပေါင်း ဆောင်ရွက်မှုလုပ်ငန်း၊ ဖက်စပ်လုပ်ငန်း၊ အပြန်အလှန်လုပ်ကိုင်ခွင့် သို့မဟုတ် အခြားနည်းပူးပေါင်းရန် သို့မဟုတ် ပါဝင်ဆောင်ရွက်ရန်။

(ဓ) အကောက်ခွန်လွတ်ဆိုင်များနှင့်ကုန်လှောင်ရုံများ ထားရှိသည့်လုပ်ငန်းဆောင်ရွက်ရန်။

(န) အဆိုပါ အစုရှယ်ယာများ၊ အစုစတော့ခ်၊ ဒီဘင်ချာငွေချေးစာချုပ်များ၊ ဒီဘင်ချာစတော့ခ်၊ ယာယီလက်မှတ်၊ ချေးငွေများ၊ ငွေချေးစာချုပ်၊ ငွေစက္ကူများ၊ တာဝန်များ၊ ဝရမ်း လက်မှတ်များ၊ ရွေးချယ်ပိုင်ခွင့်များ၊ ငွေချေးသက်သေခံလက်မှတ်များ၊ သို့မဟုတ် ရင်းနှီး မြှုပ်နှံမှုများကို လက်မှတ်ရေးထိုးခြင်း၊ ပဋိညာဉ်၊ တင်ဒါဝယ်ယူခြင်း၊ လဲလှယ်ခြင်း၊အစုရှယ်ယာများဝယ်ယူရန်အာမခံခြင်းဖြင့်လည်းကောင်း၊ အခြားနည်းဖြင့်သော်လည်းကောင်း ငွေအပြည့်ပေးပြီးသည်ဖြစ်စေ၊ မပေးရသေးဘဲဖြစ်စေ၊ ကုမ္ပဏီက သင့်တော်သည်ဟု ထင်မြင်သည့် စည်းကမ်းချက်များရှိလျှင် ယင်းစည်းကမ်းချက်များနှင့် မဆန့်ကျင်စေဘဲဖြစ်စေရယူရန်။

(ပ) ကုမ္ပဏီ၏ငွေများကို ကုမ္ပဏီက သင့်သည်ထင်မြင်သည့် ငွေချေးသက်သေခံလက်မှတ်များ၊ ရင်းနှီးမြှုပ်နှံမှုများ သို့မဟုတ် ပစ္စည်းများ၊ သင့်သည်ထင်မြင်သည့်နည်းလမ်းများဖြင့် ရင်းနှီးမြှုပ်နှံရန် နှင့် စီမံခန့်ခွဲရန်။

(ဖ) သီးသန့် သို့မဟုတ် သီးသန့်မဟုတ်သော သို့မဟုတ် ကန့်သတ်ထားသော အခွင့်အရေးများကို အပ်နှင်းသည့် မူပိုင်များ၊ မူပိုင်ခွင့်များ၊ စာမူပိုင်ခွင့်များ၊ ကုန်အမှတ် တံဆိပ်များ၊ လိုင်စင်များ၊ လုပ်ကိုင်ခွင့်များနှင့် အလားတူများကိုသော်လည်းကောင်း၊ ကုမ္ပဏီ၏ကိစ္စများအတွက် အသုံးပြုနိုင်မည့်ဖြစ်သည့် အသစ်တီထွင်မှု တစ်ခုခုနှင့် စပ်လျဉ်းသည့် သို့မဟုတ် ရယူလျှင် ကုမ္ပဏီကိုအကျိုးရှိစေရန်၊ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ၊ ရည်မှန်းချက်ရှိသည့် လျှို့ဝှက်ချက်တစ်ခုခု သို့မဟုတ် လျှို့ဝှက်ချက် မဟုတ်သော အခြားအချက်အလက်များကို သော်လည်းကောင်း လျှောက်ထားရန်၊ ဝယ်ယူရန် သို့မဟုတ် အခြားနည်းရယူရန် ထို့ပြင် ထိုသို့ရယူ သည့်ပစ္စည်း၊ အခွင့်အရေးများ သို့မဟုတ် အချက်အလက်များကို အသုံးပြုရန်၊ ကျင့်သုံးရန်၊ ဖွံ့ဖြိုးအောင် ပြုလုပ်ရန်၊ ထိုပစ္စည်း စသည်များနှင့်စပ်လျဉ်း၍ လိုင်စင်များ ထုတ်ပေးရန်၊ သို့မဟုတ် အခြားနည်းအကျိုးဖြစ်နည်းပညာရပ် မူပိုင်များ၊ ကုန်အမှတ် တံဆိပ်များနှင့် အခြားဥာဏ်စွမ်းဖြင့်ရရှိနိုင်သောပစ္စည်း နှင့် စပ်လျဉ်း၍ လိုင်စင် သဘောတူ စာချုပ်များ၊ သို့မဟုတ် အခြားသဘောတူစာချုပ်များကို ချုပ်ဆိုရန်၊ ထို့ပြင် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်ရန် နှင့် အကြောင်းသင့်ဆက်စပ်နေသော အခွင့်အရေးများ ရရှိရန်ကိစ္စများအလို့ငှာ ထိုပညာရပ်စသည်များအရ လိုင်စင်ကြေးများ၊ သို့မဟုတ် အကောက်တော်များ ပေးဆောင်ရန်။

(ဗ) ငွေပေးကတိစာချုပ်များ၊ ငွေပေးအမိန့်လက်မှတ်များ၊ သင်္ဘောကုန်တင်လက်မှတ်များ နှင့်အခြားလွှဲပြောင်းနိုင်သည့် စာချုပ်စာတမ်းများကို ရေးသားရန်၊ ပြုလုပ်ရန်၊ လက်ခံရန်၊ ထပ်ဆင့်လက်မှတ်ရေးထိုးရန်၊ ချုပ်ဆိုရန် နှင့် ထုတ်ပေးရန်။

(ဘ) ကုမ္ပဏီ၏လုပ်ငန်းရပ် သို့မဟုတ် ထိုလုပ်ငန်းရပ်၏အစိတ်အပိုင်းတစ်ခုခုကို ကုမ္ပဏီက သင့်လျော်သည်ထင်မြင်သည့် အတိုးစားနားဖြင့်လည်းကောင်း၊ အထူးသဖြင့် ကုမ္ပဏီ၏ ရည်ရွယ်ချက်များနှင့် လုံးဝဖြစ်စေ၊ အချို့အဝက်ဖြစ်စေ၊ ရည်ရွယ်ချက်များ တူညီသည့် အခြားကုမ္ပဏီတစ်ခုခု၏ အစုရှယ်ယာများ ၊ ဒီဘင်ချာငွေချေးစာချုပ်များ ၊ သို့မဟုတ် ငွေချေးသက်သေခံ လက်မှတ်များဖြင့် လည်းကောင်း ရောင်းချရန်၊ သို့မဟုတ် စီမံခန့်ခွဲရန်။

၇။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၈။ ကုမ္ပဏီ၏ခွင့်ပြုမတည်ငွေရင်းမှာ ( ကျပ်-၁၀၀၀ ဘီလီယံ ဖြစ်ပြီး ကနဦးရင်းနှီးမြုပ်နှံမှုမှာ ငွေသားအနေဖြင့် ကျပ် ၂၀၇၅၃.၈ သန်း နှင့်ပိုင်ဆိုင်ပစ္စည်းအနေဖြင့် ကျပ် ၈၀၂၀၇.၆သန်း စုစုပေါင်း ကျပ် ၁၀၀၉၆၁.၄ သန်းဖြစ်၍ အစုရှယ်ယာတစ်(၁)စုလျှင် ကျပ်တစ် (၁)သိန်းတန် အစုရှယ်ယာပေါင်း ( ၁၀၀၉၆၁၄ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ မတည်ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများ ၊ဤကိစ္စအလို့ငှာ တည်ဆဲတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၉။ ဤသင်းဖွဲ့မှတ်တမ်းတွင် ကုမ္ပဏီဟူသည့်စကားလုံးသည် ဤကုမ္ပဏီကို မရည်ညွှန်းသည့်အခါ ကော်ပိုရေးရှင်း အစုစပ်လုပ်ငန်း၊ အသင်း၊ ကလပ်၊ သို့မဟုတ် တရားဝင်ဖွဲ့စည်းထားသည် ဖြစ်စေ မည်သည့် နေရာတွင်မဆို တရားဝင်ဖွဲ့စည်းသည့် သို့မဟုတ် အမြဲနေထိုင်သည့် ထို့ပြင် ယခုတည်ဆဲဖြစ်သည့် သို့မဟုတ် နောင်တွင်ဖွဲ့စည်းရမည့် အခြားလူအစုပါဝင်သည်ဟု မှတ်ယူရမည်။

၁၀။ အကြောင်းအရာနှင့်ဖြစ်စေ၊ ရှေ့နောက်စကားတို့၏ အဓိပ္ပါယ်နှင့် ဆန့်ကျင်ကွဲလွဲချက် မရှိလျှင် ဧကဝုစ်အဓိပ္ပါယ်သက်ဝင်သည့် စကားလုံးများသည် ဗဟုဝုစ်အဓိပ္ပါယ်သက်ဝင်သည်ဟု မှတ်ယူ၍ ဗဟုဝုစ်အဓိပ္ပါယ်သက်ဝင်သည်ဟု စကားလုံးများသည်လည်း ဗဟုဝုစ်အဓိပ္ပါယ် သက်ဝင်သည်ဟု မှတ်ယူရမည်။

၁၁။ ဤသင်းဖွဲ့မှတ်တမ်းရှိ စာပိုဒ်အသီးသီးတွင် သီးခြားဖေါ်ပြထားသည့် ရည်ရွယ်ချက်များကို သီးခြားရည်ရွယ်ချက်များဟု မှတ်ယူရမည်။ ထိုသို့မှတ်ယူသည့်အတိုင်း အခြားစာပိုဒ် တစ်ခုခုတွင် ဖော်ပြထားသည့် ရည်ရွယ်ချက်များကိုဖြစ်စေ၊ ကုမ္ပဏီ၏ အမည်ကိုဖြစ်စေ၊ ရည်ရွယ်ချက်ဖြင့် အဆိုပါ ရည်ရွယ်ချက်များကို မည်သည့်နည်းနှင့်မျှ ကန့်သတ်ခြင်း သို့မဟုတ် ချုပ်ချယ်ခြင်းမရှိစေရ။ သို့ရာတွင် ဆိုခဲ့သည့် စာပိုဒ်အသီးသီးသည် သီးခြား သီးသန့်၍ လွတ်လပ်သော ကုမ္ပဏီ၏ ရည်ရွယ်ချက်များကို အဓိပ္ပါယ်ဖေါ်ပြဘိသကဲ့သို့ ပြည့်စုံလုံလောက်သောနည်းလမ်းဖြင့် ဆောင်ရွက်၍ ကျယ်ပြန့်သော အဓိပ္ပါယ် ကောက်ယူရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီ တစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသား မှတ်ပုံတင်အမှတ် | ဝယ်ယူသောအစု ရှယ် ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | မြန်မာအမျိုးသားလေကြောင်း၊ မြန်မာအမျိုးသားလေကြောင်းဥပဒေ ( ပြည်ထောင်စု လွှတ်တော် ဥပဒေအမှတ် - ၅၂/၂၀၁၄) အရ တည်ထောင် သည်။ အမှတ်၁၀၄၊ကမ်းနားလမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့ ၊ တရားဝင်လက်မှတ်ရေးထိုးခွင့်ရသူ- ဦးသန်းထွန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာနမှပိုင်သည့် နိုင်ငံပိုင်စီးပွားရေးအဖွဲ့အစည်း<br>နိုင်ငံသားမှတ်ပုံတင်အမှတ် ၁၂/မဘန(နိုင်) ၀၀၄၁၁၈ | ၁၀၀၉၆၁၃ | |
| ၂။ | ဦးစိုးဟန်၊ဒါရိုက်တာ အခန်း၂၀၁၊၂ဘီ၊အနော်ရထာလမ်း၊ လမ်းမတော်၊ ရန်ကုန်မြို့ | နိုင်ငံသားမှတ်ပုံတင်အမှတ် ၁၂/မဂဒ(နိုင်) ၀၃၆၂၂၁ | ၁ | |

ရန်ကုန်မြို့။ နေ့စွဲ၊ ၂၀၁၅ပြည့်နှစ်၊ မေလ ရက်

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ(၁၉၁၄)

နှင့်

(၁၉၅၀)ပြည့်နှစ်အထူးကုမ္ပဏီ အက်ဥပဒေ

အရ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

## မြန်မာအမျိုးသားလေကြောင်း
## ကုမ္ပဏီ လီမိတက်

## ၏

## သင်း ဖွဲ့ စည်း မျဉ်း များ

နိဒါန်း

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေနှင့် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယား ပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။

၂။ ဤကုမ္ပဏီကို၁၉၅၀ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေအရ တည်ထောင်ထားခြင်းဖြစ်ပါသည်။ အထူးကုမ္ပဏီအဖြစ် တည်ထောင်ရခြင်းမှာ ဤကုမ္ပဏီ၌ နိုင်ငံပိုင်စီးပွားရေးလုပ်ငန်းဖြစ်သည့် မြန်မာအမျိုးသားလေကြောင်းသည် အကျိုးတူရှယ်ယာများ ပိုင်ဆိုင်သောကြောင့် ဖြစ်ပါသည်။

၃။ မြန်မာအမျိုးသားလေကြောင်း( မြန်မာအမျိုးသားလေကြောင်း ကုမ္ပဏီလီမိတက် ) သည် ပို့ဆောင်ရေးဝန်ကြီးဌာန၏၄-၅-၂၀၁၅နေ့စွဲပါအမိန့်ကြော်ငြာစာအမှတ်၊(၇၀/၂၀၁၅) အရ မြန်မာ့လေကြောင်း ၏ ပိုင်ဆိုင် ပစ္စည်းများအားလုံးနှင့် လုပ်ငန်း တာဝန်များကို မြန်မာအမျိုးသားလေကြောင်း(မြန်မာအမျိုးသားလေကြောင်းကုမ္ပဏီလီမိတက်)သို့လွှဲပြောင်း ဆက်ခံ ခွင့်ပြုထားပါသည်။

## မတည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၄။ ကုမ္ပဏီ၏ခွင့်ပြုမတည်ငွေရင်းမှာ ကျပ်- ၁၀၀၀ဘီလီယံ ဖြစ်ပြီးကနဦးရင်းနှီးမြုပ်နှံမှုမှာ ငွေသားအနေဖြင့် ကျပ် ၂၀၇၅၃.၈ သန်း နှင့် ပိုင်ဆိုင်ပစ္စည်းအနေဖြင့် ကျပ် ၈၀၂၀၇.၆သန်း စုစုပေါင်းကျပ် ၁၀၀၉၆၁.၄သန်းဖြစ်၍- အစုရှယ်ယာ တစ်(၁)စုလျှင် ကျပ်တစ် (၁) သိန်းတန် အစုရှယ်ယာပေါင်း (၁၀၀၉၆၁၄) ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများ၊ဤကိစ္စအလို့ငှာတည်ဆဲတရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၅။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၆။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော် သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော် လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိမှတ်ပြု ပေးရမည်ဖြစ်သည်။

၇။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံ တောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှု တစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၈။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် နှစ်ဦး(၂) ဦးထက်မနည်း၊ ကိုးဦး(၉) ဦးထက် မများစေရ။

ပထမဒါရိုက်တာများသည် -

(က) ဦးသန်းထွန်း

(ခ) ဦးစိုးဟန်

(ဂ) ဦးထင်လင်း

(ဃ) ဦးမြင့်အောင်

(င) ဒေါ်အေးအေးကြည်

(စ) ဦးနေမျိုးတင် တို့ဖြစ်ကြပါသည်။

၉။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၁၀။ ဒါရိုက်တာများသည် ဒါရိုက်တာရာထူးအတွက် အရည်အချင်းပြည့်ဝစေရန်အတွက် ကုမ္ပဏီ၏ မည်သည့်အစုရှယ်ယာကိုမျှ ပိုင်ဆိုင်ရန် မလိုအပ်စေရ။

၁၁။ အစုရှယ်ယာများ လွှဲပြောင်းရန်တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။-

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၂။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် လူကိုယ်တိုင်ဖြစ်စေ၊တယ်လီဖုန်းဖြင့်ဖြစ်စေ၊အခြားဆက်သွယ်ရေးနည်းလမ်းတစ်ခုခုဖြင့်ဖြစ်စေ၊

တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာအဖွဲ့ဝင်၏ တစ်ဝက်(၅၀%)က လူကိုယ်တိုင်သော် လည်းကောင်း၊ တယ်လီဖုန်း သို့မဟုတ် အခြားသော ဆက်သွယ်ရေးနည်းလမ်းများဖြင့် တစ်ပြိုင် နက်တည်း ဆက်သွယ်၍ သော်လည်းကောင်း တက်ရောက်လျှင် အစည်းအဝေး အထမြောက် ရမည်။

၁၃။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၄။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၅။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲပုံစံ (က) ပါ စည်းမျဉ်းအပိုဒ် (၇၁) တွင် ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ သို့သော် ဤစည်းမျဉ်းအပိုဒ် (၁၅)ကို မဆန့်ကျင်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။

အာဏာဆိုသည်မှာ-

(က) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများအခြေအနေများသတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုသင့်တော်သောစည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်း များဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(ခ) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင် အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိ မည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ပေးရန်။

(ဂ) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့်ပေးချေရန် သို့မဟုတ် အစုရှယ်ယာများ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့်သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသက အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(ဃ) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းများအားလုံး အပေါင်ပြု၍သော်လည်းကောင်း၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော် ` လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(င) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများ အတွက်လည်းကောင်း၊ အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊

လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း၊ သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏မည်သည့် အရာရှိများကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(စ) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ် ခန့်ထားရန်။

(ဆ) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏အစုရှယ်ယာများ အားလုံးကိုဖြစ်စေ၊ အချို့အဝက် ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(ဇ) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်း များကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်း ထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ်အပ်နှံခြင်း များနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(ဈ) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ်စွန့်ပယ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသောကြွေးမြီများ နှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန် ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူကြေအေးခြင်းများ ပြုလုပ်ရန်။

(ည) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(ဋ) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များ နှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(ဌ) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့်ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(ဍ) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ် ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များ နှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(ဎ) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျှောက်ပတ်သော နည်းလမ်း များဖြင့် လတ်တလောအသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ၊ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲ ထားရန်၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည် ရယူရန် နှင့် ပြင်ဆင် ပြောင်းလွှဲရန်။

(ဏ) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ်အခြားပုဂ္ဂိုလ်များကကုမ္ပဏီ၏(လက်ရှိနှင့်နောင်တွင်ရှိမည့်)ပစ္စည်းများကိုဤ ကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့်အာဏာ နှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီ ချက်များ နှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(တ) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေ မှ ကော်မရှင်ပေးခြင်း၊ သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(ထ) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဥ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(ဒ) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေလိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန် နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များ နှင့် ကိစ္စရပ်များကိုလည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဥ်း သော ကိစ္စရပ်များကို လည်းကောင်း၊ လုပ်ကိုင် ဆောင်ရွက်ရန်။

(ဓ) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေး လုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

၁၆။ ကုမ္ပဏီ၏ နေ့စဥ်လုပ်ငန်းဆောင်တာများနှင့် စီမံခန့်ခွဲမှုကိစ္စရပ်များကို ကုမ္ပဏီ၏ မန်းနေးဂျင်း ဒါရိုက်တာ (သို့မဟုတ်၊ ၎င်းပျက်ကွက်ပါက ၎င်း၏ကိုယ်စားပြုခြင်းခံရသူက) ဒါရိုက်တာ အဖွဲ့ မှ ဆုံးဖြတ်ထားသော သို့မဟုတ် အတည်ပြုထားသော ပေါ်လစီများ၊ ဘဏ္ဍာငွေများနှင့် စီးပွား စီမံကိန်းများအရ ပြုလုပ်ဆောင်ရွက်ရမည်။

## အထွေထွေအစည်းအဝေးကြီးများ

၁၇။ အစုရှင်များ၏ အစည်းအဝေးများကို ၎င်းကုမ္ပဏီဖွဲ့စည်းသည့် နေ့ရက်မှ ၁၈ လအတွင်း ပြုလုပ်ရမည့်ပြင် ၎င်းနောက်တွင် အလျှင်နောက်ဆုံး အစည်းအဝေးကြီးပြုလုပ်ပြီးနောက်၁၅ လထက်မပိုစေဘဲ၊ ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ်ကျ အစည်းအဝေးကြီး ပြုလုပ်ရမည်။

၁၈။ အစုရှင်များ၏ နှစ်ပတ်လည်အစည်းအဝေးကို နှစ်စဥ် ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် သုံး(၃)လ အတွင်း ကျင်းပရမည်။ ထိုအစည်းအဝေးများ၌ ဒါရိုက်တာများကိုရွေးကောက်ခြင်း၊ ကုမ္ပဏီ၏ ကိစ္စရေးရာများကို အစီရင်ခံစာတင်သွင်းခြင်းနှင့် ထည့်သွင်းစဥ်းစားခြင်း နှင့်အဖွဲ့

ဝင်များ၏ လုပ်ပိုင်ခွင့် အာဏာအတွင်းကျရောက်သော အခြားသော စီးပွားရေးကိစ္စများကို ဖြစ်မြောက်အောင် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရမည်။

၁၉။ အစုရှင်များ၏ အစည်းအဝေးကို အုပ်ချုပ်မှုဒါရိုက်တာကဖြစ်စေ၊ ဒါရိုက်တာအဖွဲ့ဝင်များက ဖြစ်စေ၊ ကုမ္ပဏီ၏ ထည့်ဝင်ပြီးသော အစုရှယ်ယာ နှစ်ဆယ်(၂၀%) ထက်မနည်း ပိုင်ဆိုင်သည့် မည်သည့်အစုရှင်တစ်ဦး သို့မဟုတ် တစ်ဦးထက် ပိုသောသူများကဖြစ်စေ၊ မည်သည့် ရည်ရွယ်ချက်အတွက်မဆို အချိန်မရွေး ခေါ်ယူကျင်းပနိုင်သည်။

၂၀။ အစည်းအဝေးဖိတ်ခေါ်သည့် နို့တစ်စာတွင် အစည်းအဝေးကျင်းပမည့်နေရာ၊ နေ့ရက်၊ အချိန်နှင့် အစည်းအဝေးတွင် ဆွေးနွေးဆောင်ရွက်မည့် ယေဘုယျအချက်အလက်များကို သီးခြား ဖော်ပြ၍ ထိုနို့တစ်စာကို အစည်းအဝေးကျင်းပမည့်နေ့နှင့် ရက်ပေါင်း ခြောက်ဆယ် (၆၀) ထက်မစော၊ ရက်ပေါင်း သုံးဆယ်(၃၀) ထက် နောက်မကျစေဘဲ ပေးပို့ရမည်။ အစုရှင်များ၏ စာဖြင့် ရေးသားထားသော သဘောတူညီချက်ဖြင့် အထက်ပါ သတ်မှတ်ထား သော အစည်းအဝေး ဖိတ်ခေါ်သည့် နို့တစ်စာကို စွန့်လွှတ်နိုင်သည်။

၂၁။ အစုရှင်များ၏ နှစ်ပတ်လည်အစည်းအဝေးများ သို့မဟုတ် အထူးအစည်းအဝေးများကို ကုမ္ပဏီ ၏ ထည့်ဝင်ပြီးသည့်အစုရှယ်ယာငါးဆယ်(၅၀%)ရာခိုင်နှုန်း ထက်မနည်း ပိုင်ဆိုင်သောအစုရှင် များကကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားမဲဖြင့်ဖြစ်စေ တက်ရောက်မှသာလျှင် အစည်းအဝေး အထမြောက်ရမည်။ အောက်ပါစည်းမျဉ်း အပိုဒ်(၂၁) ပြဋ္ဌာန်းချက်နှင့် မဆန့်ကျင်စေဘဲ အစည်းအဝေးဆုံးဖြတ်ချက်များကို သက်ဆိုင်ရာ အစည်းအဝေးအလိုက် တရားဝင် အဆုံးအဖြတ်မဲ အများစုဖြင့် စဥ်းစားဆင်ခြင် သုံးသပ်ရမည်။

၂၂။ အောက်ပါစည်းမျဉ်း အပိုဒ်(၂၄)တွင် ဖော်ပြပါရှိသော ဆုံးဖြတ်ချက် ကိစ္စရပ်များကို နှစ်ပတ်လည် အစည်းအဝေးများ သို့မဟုတ် အထူးအစည်းအဝေးများတွင် ကုမ္ပဏီ၏ ထည့်ဝင် ပြီးသော အစုရှယ်ယာများ၏ ခြောက်ဆယ်(၆၀%) ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်သော အစုရှင်များက ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားမဲဖြင့်ဖြစ်စေ၊ ချမှတ်ဆောင်ရွက်ရမည်။ ထို့အပြင် ထိုသို့ ချမှတ်ပြီး သော ဆုံးဖြတ်ချက်များကို အစည်းအဝေးအလိုက် တရားဝင် အဆုံးအဖြတ်မဲ အရေအတွက် ခြောက်ဆယ်(၆၀%)ရာခိုင်နှုန်း ထက်မနည်းစေဘဲဖြင့် အတည်ပြုရမည်။

၂၃။ အဖွဲ့ဝင်များ၏ မည်သည့်အစည်းအဝေးတွင်မဆို အစုရှင်တိုင်းသည် ၎င်းကိုယ်စား စာဖြင့် ရေးသားထားသောကိုယ်စား မဲဖြင့် မဲပေးနိုင်သည်။ ကုမ္ပဏီ၏ အစုရှယ်ယာတစ်ခုစီ အတွက် မဲတစ်မဲပေးပိုင်ခွင့်ရှိသည် အကယ်၍ မဲအရေအတွက်တူညီနေပါက မည်သူမျှ ဒုတိယမဲ သို့မဟုတ် အဆုံးအဖြတ်မဲ ပေးပိုင်ခွင့် မရှိစေရ။

၂၄။ အဖွဲ့ဝင်များက ဖက်(စ်)စာဖြင့်ရေးသား၍ လက်မှတ်ရေးထိုးထားသော သို့မဟုတ် အတည် ပြုထားသော ဆုံးဖြတ်ချက်များသည် ကုမ္ပဏီအဖွဲ့ဝင်များက နည်းလမ်းတကျဆောင်ရွက် ထားသော ဆုံးဖြတ်ချက်များကဲ့သို့ တရားဝင်အကျိုးသက်ရောက်စေရမည်။

၂၅။ အောက်တွင် ဖော်ပြပါရှိသော မည်သည့် ဆောင်ရွက်ချက်များ၊ ကိစ္စရပ်များကိုမဆို အထက်အပိုဒ် (၂၁)ပါ အစုရှင်များ၏ အထူးဆုံးဖြတ်ချက်ဖြင့် ကြိုတင်အတည်ပြုချက်မပါရှိဘဲ ပြုလုပ်၊ ဆောင်ရွက်နိုင်ခွင့် မရှိစေရ။

(က) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများကို ပြောင်းလဲပြင်ဆင်ခြင်း။

(ခ) သတ်မှတ်မတည်ငွေရင်းများ၊ သို့မဟုတ် ထည့်ဝင်မတည်ငွေရင်းများကို တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၊ သို့မဟုတ် အစုရှယ်အသစ်များကို ထုတ်ဝေခြင်း။

(ဂ) စာရင်းရှင်းလင်းခြင်း၊ ဖျက်သိမ်းခြင်း၊ ပျက်ပြယ်စေခြင်း။

(ဃ) မည်သည့် တတိယပုဂ္ဂိုလ်နှင့်မဆို ပူးပေါင်းခြင်း။

(င) ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းများ ပြောင်းလဲခြင်း။

(စ) တတိယပုဂ္ဂိုလ်နှင့်အတူ ရင်းနှီးမြှုပ်နှံခြင်း သို့မဟုတ် အခြားစီးပွားရေးလုပ်ငန်းများကို ရုတ်သိမ်းခြင်း။

## အမြတ်ဝေစုများ

၂၆။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးတွင် အခြား သတ်မှတ်ပြဋ္ဌာန်းချက် မရှိပါက ကုမ္ပဏီ၏ အမြတ်ငွေများကို နောင်လာမည့် လုပ်ငန်းလည်ပတ်ငွေ နှင့် အခွန်အခများ အပါအဝင် သင့်တော်သော အရန် ငွေကြေးများကို သီးခြား ချန်လှပ်ပြီးနောက် အစုရှင်များ ကို ခွဲဝေပေးရမည်။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ် ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၂၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန် နှင့် အခြားအရည် အချင်း ပြည့်မီ သူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို မန်းနေးဂျင်း ဒါရိုက်တာက သတ်မှတ်ရမည်။ အထွေထွေမန်နေဂျာ သည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရ မည်ဖြစ်ပြီး မန်းနေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၂၈။ ဒါရိုက်တာများသည် သင့်လျော်သည် ငွေစာရင်းစာအုပ်များကို အောက်ဖေါ်ပြပါ သတ်မှတ် ချက်များနှင့်အညီ ထိန်းသိမ်း ဆောင်ရွက်ရမည်။

(က) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(ခ) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(ဂ) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၂၉။ ငွေစာရင်းအားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသောအခြားနေရာတွင် သိမ်းဆည်းထားရ မည်ဖြစ်ပြီး ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၃၀။ စာရင်းစစ်များကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၄၅-က နှင့်အညီခန့်အပ်ရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၃၁။ ကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာ ပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက် မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၃၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက် ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့်ခွင့်ပြုချက်မှတစ်ပါးထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင် မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက် နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၃၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဌာန်းချက်များ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရား များကို ဆောင်ရွက်ရာ၌ ဖြစ်စေ၊ ထို တာဝန် ဝတ္တရား များနှင့် စပ်လျဉ်း၍ ဖြစ်စေ၊ကျခံခဲ့ရသည့် စရိတ် များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရ ထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၃၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအားဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအား လျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဥ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန်သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁။ | မြန်မာအမျိုးသားလေကြောင်း၊<br>မြန်မာအမျိုးသားလေကြောင်းဥပဒေ (ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် -၅၂/၂၀၁၄)အရတည်ထောင်သည်။<br>အမှတ်၁၀၄၊ကမ်းနားလမ်း၊ ကျောက်တံတားမြို့နယ်၊ရန်ကုန်မြို့။<br>တရားဝင်လက်မှတ်ရေးထိုးခွင့်ရသူ-<br>ဦးသန်းထွန်း၊<br>ဦးဆောင်ညွှန်ကြားရေးမှူး | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာနမှပိုင်သည့် နိုင်ငံတော်ပိုင်စီးပွားရေးအဖွဲ့အစည်း<br>နိုင်ငံသားမှတ်ပုံတင်အမှတ်<br>၁၂/မဘန(နိုင်)၀၀၄၁၁၈ | ၁၀၀၉၆၁၃ | |
| ၂။ | ဦးစိုးဟန်၊ ဒါရိုက်တာ<br>အခန်း၂၀၁၊၂ဘီ၊အနော်ရထာလမ်း၊ လမ်းမတော်မြို့နယ် ၊ရန်ကုန်မြို့ | နိုင်ငံသားမှတ်ပုံတင်အမှတ်<br>၁၂/မဂဒ(နိုင်)၀၃၆၂၂၁ | ၁ | |

ရန်ကုန်မြို့။ နေ့စွဲ၊ ၂၀၁၅ ပြည့်နှစ်၊ မေ လ ရက်

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

**UNDER**

**THE MYANMAR COMPANIES ACT(1914)**

**and**

**(1950)YEAR THE SPECIAL COMPANY ACT**

**PRIVATE COMPANY LIMITED BY SHARES**

**MEMORANDUM OF ASSOCIATION**

**of**

**MYANMAR NATIONAL AIRLINES COMPANY LIMITED**

* * * * * * * * *

1. The name of the Company is MYANMAR NATIONAL AIRLINES COMPANY LIMITED.
2. The Registered Office of the Company will be situated at 104, Kanna Road, Kyauttada Township, Yangon, Myanmar.
3. Myanmar National Airlines Company Limited is inherited and transferred all the right and properties from Myanma Airways as Ministry of Transport order no. 70/2015 dated 4th May 2015.
4. The Company is to be formed under the Special Company Act (Act. No 54 of 1950) as a "Special Company" by virtue of the fact that the State-owned Economic Enterprise namely Myanmar National Airlines will hold shares in the Company.
5. The provisions of the Myanmar Companies Act, 1914 shall apply to this Company except in so far as and to the extent that such are not inconsistent with this Memorandum of Association or the Articles of Association of the Company.
6. The objects for the company is established are those set out below;
   (a) To authorize Management Board and Myanmar National Airlines for making due implementation of Myanmar National Airlines services;
   (b) To enjoy safety standard free from danger in the accessibility of airline and more development of Myanmar National Airlines services;

(c) To freely perform economically under the market oriented economic system of the financial expenditure system and management of Myanmar National Airlines;

(d) To form alteration of Myanmar National Airlines for the permission of paying systematic services under the stipulation of terms for the investors at home and abroad on Myanmar National Airlines Services;

(e) To communicate and contribute with the international economic association for Myanmar National Airlines.

(f) To operate as reputable international standard National Flag Carriers of Myanmar to perform airlines services and all aviation industry related services and to provide not only domestic and international schedule services but also lto carry out charter flights, cargo transportation and cargo warehouse handling at the air side and land side.

(g) To engage in the business of tourism whose travel plans pass through any airport within the Union of Myanmar as well as those starting from, ending with or passing through, any airport abroad lying in the route of the flights operated by the Company regular or chartered.

(h) To operate as win-win cooperation and perform of the other sundry services, ground and flight services at home and abroad.

(i) To sell and distribute, store, purchase of flight oil, engine oil and lubricant.

(j) To perform of food services on board of flight.

(k) To cooperate with the appropriate organization for the aviation insurance services.

(l) To own, manage or operate Hotels, Motels, Holiday Camps, Inns,Lodging Hourses, Restaurants, Cafes or to lease or franchise such establishments or otherwise make arrangements with any such establishments or their chains in furtherance of the Company's business.

